## ၁၆။ လုပ်ငန်းဆောင်ရွက်ရာတွင်လိုက်နာရမည့်ဥပဒေ

စာချုပ်ချုပ်ဆိုသူများသည် ဤစာချုပ်အရဆောင်ရွက်ရမည့် ၎င်း၏တာဝန်ဝတ္တရားများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရမည်။

## ၁၇။ စာချုပ်၏သက်တမ်း

၁၇.၁။ ဤစာချုပ်၏ကနဦးသက်တမ်းကာလသည် နှစ် ၅၀ (ငါးဆယ်) ဖြစ်ပြီး အဆိုပါကာလသည် (                    ) မှ စတင်အကျိုးသက်ရောက်မည်ဖြစ်ပြီး (                    ) တွင် ကုန်ဆုံးမည် ဖြစ်သည်။ အဆိုပါ နေ့ရက်နှစ်ရက်စလုံးသည် စာချုပ်၏သက်တမ်းကာလတွင် ပါဝင်သည်။ (နောင်တွင် ကနဦး သက်တမ်းကာလ ဟု ခေါ်ဆိုမည်) ဤစာချုပ်၏ကနဦးသက်တမ်းကာလကုန်ဆုံးသောအခါ စာချုပ်ချုပ်ဆိုသူ B ၏ဆန္ဒအလျောက် သက်ဆိုင်ရာအစိုးရ ခွင့်ပြုချက်ဖြင့် တစ်ကြိမ်လျှင် ၁၀ နှစ်စီ နှစ်ကြိမ်သက်တမ်းတိုးကာလအတွက် ဤစာချုပ်ကို သက်တမ်းတိုးနိုင် သည်။ (အားလုံးကိုစုပေါင်း၍ စုစုပေါင်း BOT သက်တမ်းကာလ ဟု ခေါ်ဆိုမည်) လိုအပ်သော အစိုးရခွင့်ပြုချက်များကို ရရှိသောအခါ စာချုပ်ချုပ်ဆိုသူ B သည် အခြားနည်းအားဖြင့် စာချုပ်၏ သက်တမ်းမကုန်ဆုံးမီ အနည်းဆုံးရက်ပေါင်း ၉၀ (ကိုးဆယ်) ကြိုတင်၍ စာချုပ်ချုပ်ဆိုသူ A အား ဤစာချုပ်ကို သက်တမ်းတိုးလိုကြောင်း စာဖြင့်ရေးသားထားသည့်ကြိုတင်အကြောင်းကြားစာကို ပေးပို့ရမည်။

၁၇.၂။ စာချုပ်၏သက်တမ်းနှစ် (၅၀) နှင့် သက်တမ်းတိုးကာလများ ကုန်ဆုံးသောအခါ ဤစာချုပ်ကို ရပ်စဲရမည်ဖြစ်ပြီး ဟိုတယ် နှင့် တကွ ထိုနေရာရှိမရွှေ့ပြောင်းနိုင်သောအမြဲတွယ်ကပ်နေသည့်ပစ္စည်းများ အားလုံးကို မည်သည့်အဖိုးစားနားမျှမပါဘဲ ကောင်းမွန်စွာပြုပြင်ထိန်းသိမ်းထားသည့်အနေအထား ဖြင့် စာချုပ်ချုပ်ဆိုသူ A အား လွှဲပြောင်းပေးအပ်ရမည်။

## ၁၈။ ကိုယ်စားပြုခြင်း နှင့် အာမခံခြင်း

ဤစာချုပ်၏အကျိုးသက်ရောက်မှုသည် စာချုပ်ချုပ်ဆိုသူများက ဤအပိုဒ် ၁၈ ပါပြဋ္ဌာန်းချက်များကို စာဖြင့်ရေးသားလျက် ဖြည့်ဆည်း ဆောင်ရွက်ခြင်း သို့မဟုတ် စွန့်လွှတ်ခြင်း အပေါ်မူတည်သည် ဟု စာချုပ်ချုပ်ဆိုသူများက အာမခံပါသည်။ စာချုပ်ချုပ်ဆိုသူ B သည် အဆောက်အအုံ ဆောက်လုပ်ရန်၊ ဟိုတယ်လိုင်စင်ရရှိရန်အတွက် ခွင့်ပြုချက်များ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုချက်၊ ၂၀၁၂ ခုနှစ်၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အကျိုးခံစားခွင့်များ နှင့် ရပိုင်ခွင့်များ (အနည်းဆုံး ကုမ္ပဏီဝင်ငွေခွန်ကင်းလွတ်ကာလ ၅ (ငါး) နှစ် နှင့် သက်ဆိုင်ရာ အကောက်ခွန် ကင်းလွတ်ခွင့်များ အပါအဝင်) အပါအဝင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ တွင် သက်ဆိုင်ရာ အစိုးရအာဏာပိုင်များထံမှ ၎င်း၏လုပ်ငန်းဆောင်ရွက်မှု နှင့် အကောင်အထည်ဖော် ဆောင်ရွက်မှု အတွက် လိုအပ်သော သဘောတူခွင့်ပြုချက်များကို ရယူရမည်။ ထို့အပြင် စာချုပ်ချုပ်ဆိုသူ B သည် ကုန်သွယ်ခွင့် ခွင့်ပြုမိန့်ရရှိအောင် ဆောင်ရွက်ရမည်။ ဤစာချုပ်၏တရားဝင်အကျိုးသက်ရောက်မှု

သို့မဟုတ် ဤစာချုပ်တွင် သတ်မှတ်ထားသော လုပ်ငန်းဆောင်ရွက်မှုများကို ထိခိုက်စေနိုင်သော မပြီးပြတ်သေးသည့် တရားရင်ဆိုင်မှု သို့မဟုတ် တရားစွဲဆိုရန်ရည်ရွယ်မှုတို့ မရှိစေရ။ စာချုပ်ချုပ်ဆိုသူများအကြား မြေငှားရမ်းခြင်းသဘောတူစာချုပ်ကို (မြေငှားရမ်းခြင်းသဘောတူစာချုပ်) ကို စာချုပ်ချုပ်ဆိုသူများက နည်းလမ်းတကျချုပ်ဆိုထားပြီးဖြစ်ကာ အဆိုပါသဘောတူစာချုပ်သည် ဥပဒေအရ အကျိုးသက်ရောက်မှုအပြည့်အဝရှိရမည်။ ဤစာချုပ်နှင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်တွင် စာချုပ်ချုပ်ဆိုသူ A နှင့် စာချုပ်ချုပ်ဆိုသူ B တို့၏ကိုယ်စားပြုခြင်းများသည် အပြည့်အဝ မှန်ကန်မှုရှိရမည်။

## ၁၉။ BOT စာချုပ်ကို ပြင်ဆင်ခြင်းများ

ဤစာချုပ်တွင် သတ်မှတ်မထားသော အခြေအနေများကြောင့် အခြေအနေ သို့မဟုတ် ဖြစ်ရပ်တစ်ခုခု ပေါ်ပေါက်လာပါက သို့မဟုတ် စာချုပ်ကိုပြင်ဆင်ရန်လိုအပ်သည့် အခြေအနေ သို့မဟုတ် ဖြစ်ရပ်တစ်ခုခု ပေါ်ပေါက်လာပါက စာချုပ်ချုပ်ဆိုသူများသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်နှင့်အညီ စာဖြင့် ရေးသားလျက် လိုအပ်သောပြင်ဆင်ချက်များကို ပြုလုပ်ရမည်။

## ၂၀။ စာချုပ်ရပ်စဲခြင်း

အောက်ပါဖြစ်ရပ်တစ်ခုခု ပေါ်ပေါက်ပါက၊ ဤစာချုပ်ကို ရပ်စဲရမည် -

(က) သက်ဆိုင်ရာမြန်မာအာဏာပိုင်များ၏ခွင့်ပြုချက်နှင့်အညီ စာချုပ်ကိုရပ်စဲရန် စာချုပ်ချုပ်ဆိုသူများက စာဖြင့်ရေးသား၍ သဘောတူခြင်း၊

(ခ) စာချုပ်ချုပ်ဆိုသူ B က လူမွဲစာရင်းခံခြင်း၊

(ဂ) စာချုပ်ချုပ်ဆိုသူ B က မိမိဆန္ဒအလျောက်ဖြစ်စေ၊ မိမိဆန္ဒအလျောက်မဟုတ်ဘဲဖြစ်စေ စာရင်းရှင်းလင်းဖျက်သိမ်းခြင်း၊

(ဃ) မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ခုပေါ်ပေါက်ပြီး အဆိုပါဖြစ်ရပ်သည် ၃ (သုံးလ) ထက် ပိုမို ကြာရှည်စွာ ဖြစ်ပွားနေပါက အဆိုပါဖြစ်ရပ်ကြောင့်ပေါ်ပေါက်သော အခြေအနေကြောင့် စာချုပ်ချုပ်ဆိုသူ B က စာချုပ်ရပ်စဲခြင်း၊

(င) ပျက်ကွက်သည့်စာချုပ်ချုပ်ဆိုသူက ဤစာချုပ်ပါငှင်း၏တာဝန်များအတွက် အရေး ကြီးသော ဖောက်ဖျက်မှုကိုကျူးလွန်ပါက၊ အဆိုပါဖောက်ဖျက်မှုကို ပြန်လည်ပြင်ဆင်နိုင်လျှင်၊ မပျက်ကွက်သည့်စာချုပ်ချုပ်ဆိုသူက အဆိုပါပြင်ဆင်မှုကိုဆောင်ရွက်ရန် စာဖြင့်ရေးသားလျက် အကြောင်းကြားသည့်ရက်မှ ရက်ပေါင်းကိုးဆယ် (၉၀) အတွင်း အဆိုပါပြင်ဆင်မှုကို ဆောင်ရွက်ရန် ပျက်ကွက်ပါက မပျက်ကွက်သည့်စာချုပ်ချုပ်ဆိုသူက ဤစာချုပ်ကို ရပ်စဲခွင့် ရှိခြင်း၊

ဤစာချုပ်ကို စာချုပ်ချုပ်ဆိုသူ A က မတရားရပ်စဲလိုက်ပါက စာချုပ်ချုပ်ဆိုသူ A သည် အဆိုပါ စာချုပ်ရပ်စဲခြင်းကြောင့် စာချုပ်ချုပ်ဆိုသူ B ရင်ဆိုင်ရမည့် သို့မဟုတ် ကျခံဖြေရှင်းရမည့် နစ်နာပျက်စီးမှု များအားလုံးအတွက် လျော်ကြေးကို စာချုပ်ချုပ်ဆိုသူ B အား ပေးအပ်ရမည်။ ဤအချက်သည် စာချုပ် ချုပ်ဆိုသူ A က ဤစာချုပ်ပါ ၎င်း၏တာဝန်များကို ဆောင်ရွက်ရန် လိုအပ်သည့် စာချုပ်ချုပ်ဆိုသူ B ၏အခွင့်အရေးများကို ထိခိုက်ခြင်းမရှိစေရ။

## ၂၁။ အထွေထွေကိစ္စရပ်များ

၂၁.၁။ နောက်ဆက်တွဲများသည် ဤစာချုပ်၏အဓိကအစိတ်အပိုင်းဖြစ်ရမည်။

၂၁.၂။ ဤစာချုပ်တွင် အခြားနည်းသတ်မှတ်ထားသည်မှအပ မည်သည့် စာချုပ်ချုပ်ဆိုသူမျှ အခြားစာချုပ် ချုပ်ဆိုသူတစ်ဦး၏ စာဖြင့်ကြိုတင်ရေးသားထားသော သဘောတူ ခွင့်ပြုချက်မပါဘဲ ဤစာချုပ်ပါ ၎င်း၏အခွင့်အရေးများနှင့်တာဝန်များကို တတိယပုဂ္ဂိုလ်အဖွဲ့အစည်းတစ်ခုအား လွှဲပြောင်း ပေးအပ်ခြင်း မပြုရ။ သို့ရာတွင် ဤစာချုပ်၊ မြေငှားရမ်းခြင်း သဘောတူ စာချုပ်ပါစည်းမျဉ်းစည်းကမ်း များနှင့်အညီ မြေကို လုပ်ငန်းချင်းပူးပေါင်းဆောင်ရွက်သည့် ကုမ္ပဏီ တစ်ခုသို့ ထပ်ဆင့်ငှားရမ်း နိုင်သည့် စာချုပ်ချုပ်ဆိုသူ B ၏အခွင့်အရေးကို စာချုပ်ချုပ်ဆိုသူ A က အသိအမှတ်ပြုပါသည်။

၂၁.၃။ ဤစာချုပ်တွင် စာချုပ်ချုပ်ဆိုသူများ၏အလုံးစုံအပြီးသတ်သဘောတူခြင်းပါဝင်ပြီး ဤစာချုပ်သည် ဤကိစ္စနှင့်စပ်လျဉ်း၍ စာချုပ်ချုပ်ဆိုသူများအကြား ယခင်ပြုလုပ်ခဲ့သော သဘောတူညီချက်များ နှင့် ကတိကဝတ်ပြုချက်များအားလုံးအပေါ် လွှမ်းမိုးသည်။

## ၂၂။ စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့ရက်

ဤစာချုပ်သည် စာချုပ်ချုပ်ဆိုသူများက လက်မှတ်ရေးထိုးသည့်နေ့ရက်တွင် စတင်အကျိုးသက်ရောက် မည်ဖြစ်ပြီး နှစ်ပေါင်း ၅၀ (ငါးဆယ်) အထိ ဆက်လက်အကျိုးသက်ရောက်မည်ဖြစ်သည်။

စာချုပ်ချုပ်ဆိုသူများသည် စာချုပ်ကိုဖတ်ရှု၊ နားလည်၊ သဘောပေါက်ပြီးဖြစ်ကာ သက်သေရှေ့မှောက်တွင် အထက်တွင်ဖော်ပြထားသော ရက်စွဲ၌ လက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| လက်မှတ်ရေးထိုးသူ | လက်မှတ်ရေးထိုးသူ |
| ........................................ | ................................................. |
| (ဒေါ်နီနီကျော်၊ ညွှန်ကြားရေးမှူးချုပ်၊ | Mr. Christopher-Wright Kingsley |
| သစ်တောဦးစီးဌာန၊ ပတ်ဝန်းကျင် | Director |
| ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန) | Benchmade Asia (Myanmar) Ltd |
| | 14 Makepeace Road, Singapore 238623 |
| ရက်စွဲ - | ရက်စွဲ- |
| သက်သေ | သက်သေ |
| ..................................................... | ...................................................... |
| ................................................. | ......................................................... |
| သက်သေ၏အမည် | သက်သေ၏အမည် - |

BENCHMADE ASIA PTE. LTD.

14 MAKEPEACE ROAD
SINGAPORE 228639
T +65-91277225
Email:chris@brownstonefurniture.com

**Appendix 11**

**May 4, 2015**

**Extract of Minutes of the Meeting of**

**The Board of Directors of BENCHMADE ASIA PTE. LTD. held on May 4, 2015**

**Resolution:**

Resolved that a Company under the name and style of " BENCHMADE ASIA (MYANMAR) LIMITED" be incorporated in the Republic of the Union of Myanmar with the following subscribers as shareholders:

1) Mr. Christopher Wright Kingsley
   Representing by Benchmade Asia Pte. Ltd.

2) Mrs. Farina Wong Kingsley
   As nominee shareholder for Benchmade Asia Pte. Ltd.

..............................

**Christopher W. Kingsley**
**Chairman of the Meeting**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ် ၃(၁)/၀၃(ဃ)(၃)/( ၈၅၈ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ ဇွန်လ ၁၀ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>လန်ပိအဏ္ဏဝါ အမျိုးသားဥယျာဉ်အတွင်း သဘာဝအခြေခံခရီးသွားလုပ်ငန်း အပန်းဖြေစခန်း တည်ထောင်ရန်အတွက် နှစ်ရှည်မြေငှားစာချုပ် ချုပ်ဆိုရန် တင်ပြခြင်းကိစ္စ</u>

ရည် ညွှန်း ချက် ။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ၊ နိုင်ငံတော်သမ္မတရုံး၏ ၁၆-၃-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၁၃(၁)/၇/သမ္မတရုံး

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ ၂၀၁၅ ၊ ဇန်နဝါရီလ ၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် (၁/၂၀၁၅) ကြိမ်မြောက်အစည်းအဝေး ဆုံးဖြတ်ချက်အရလည်းကောင်း၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နိုင်ငံတော်သမ္မတရုံး၏ ရည်ညွှန်းချက်ပါ စာအရလည်းကောင်း ၊ လန်ပိအဏ္ဏဝါ အမျိုးသားဥယျာဉ်အတွင်း သဘာဝ အခြေခံခရီးသွားလုပ်ငန်း အပန်းဖြေစခန်း တည်ထောင်ရန်အတွက် သစ်တောမြေဧရိယာ (၂၀၀) ဧကအား သစ်တောဦးစီးဌာန နှင့် BENCHMADE ASIA ( MYANMAR ) LTD တို့ အကြား B.O.T စနစ်ဖြင့် နှစ်ရှည်မြေငှားရမ်း သုံးစွဲခွင့်ပြုခဲ့ပါသည်။

၂။ အဆိုပါ သဘာဝအခြေခံ ခရီးသွားလုပ်ငန်း အပန်းဖြေစခန်း တည်ထောင်ရန်အတွက် ခွင့်ပြုချက်ရရှိသည့် BENCHMADE ASIA (MYANMAR) LTD မှ မြေ (၁၀၀.၁၅) ဧကအား နှစ်ရှည်မြေငှားစာချုပ်ချုပ်ဆိုရန် မြေငှားစာချုပ် ( မူကြမ်း ) ပါအချက်များမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငှားရမ်းမည့်မြေ | - | (၁၀၀.၁၅)ဧက |
| (ခ) | ငှားရမ်းကာလ | - | ကနဦး(၅၀)နှစ်နှင့် သက်တမ်းတိုးမြှင့်ခြင်း (၁၀)နှစ်သက်တမ်း(၂)ကြိမ် |
| (ဂ) | မြေငှားခပရီမီယံကြေး | - | အမေရိကန်ဒေါ်လာ ၇၅၀၀၀ |

| | | | |
|---|---|---|---|
| (ဃ) | မြေငှားရမ်းခ | - | မြေတစ်ဧက တစ်နှစ် အမေရိကန် ဒေါ်လာ (၄၀၀)နှင့်(၅)နှစ်တစ်ကြိမ်ဈေးနှုန်းပြန်လည်ညှိနှိုင်းရန် |
| (င) | လုပ်ငန်းအဆိုပြုသူအမည် | - | Mr.Christopher Wright Kingsley |
| (စ) | လုပ်ငန်းအမျိုးအစား | - | သဘာဝအခြေခံခရီးသွားလုပ်ငန်းအပန်းဖြေစခန်းတည်ထောင်ရန် |
| (ဆ) | ရင်းနှီးမြှုပ်နှံမှုတန်ဖိုး | - | နိုင်ငံခြားငွေ US $ ၁၀,၀၀၀,၀၀၀ (အမေရိကန်ဒေါ်လာ သန်းတစ်ဆယ်တိတိ) |
| (ဇ) | ကုမ္ပဏီအမည် | - | BENCHMADE ASIA ( MYANMAR ) LTD |

၃။ သို့ဖြစ်ပါ၍ BENCHMADE ASIA (MYANMAR) LTD မှ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည့် လုပ်ငန်းအဆိုပြုချက် တင်ပြလွှာ ၊ ပြုပြင်ပြီး စာချုပ်(မူကြမ်း) ၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုစာတို့ကို ဤစာနှင့်အတူ ပူးတွဲတင်ပြ အပ်ပါသည်။

(ဝင်းထွန်း)
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပြည်ထောင်စုရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊၂(၅) ၃ - ၇၅ / နပတ( ၄၆၂ )

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ၂၄ ရက်

အကြောင်းအရာ။ **သစ်တောဦးစီးဌာနပိုင် လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်အတွင်း သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်း တည်ဆောက်ရန်အတွက် ချုပ်ဆိုမည့် Land Lease Agreement (မူကြမ်း)နှင့် B.O.T Contract (မူကြမ်း) တို့အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။

(၁) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန၏ ၂၆-၉-၂၀၁၃ရက်စွဲပါစာအမှတ်၊ဥယျာဉ်-ငွေ/ လန်ပိ/ ၇၄၃၂/၂၀၁၃

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန၏ ၂၂-၈-၂၀၁၃ရက်စွဲပါစာအမှတ်၊ ဥယျာဉ်-ငွေ/ လန်ပိ/ ၄၉၀၉/၂၀၁၃

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၃-၉-၂၀၁၃ရက်စွဲပါစာအမှတ်၊ ၂(၅) ၃-၇၅/ နပတ(၆၆၀)

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန သည် တနင်္သာရီတိုင်းဒေသကြီး၊ ဘုတ်ပြင်းမြို့နယ်ရှိ သစ်တောဦးစီးဌာနပိုင် လန်ပိအဏ္ဏဝါ အမျိုးသားဥယျာဉ်အတွင်း သဘာဝအခြေခံခရီးသွား အပန်းဖြေစခန်း တည်ဆောက်ရန်အတွက် သစ်တောဦးစီးဌာန နှင့် Wa Ale Hotel and Resort Co., Ltd တို့ ချုပ်ဆိုမည့် Land Lease

Agreement (မူကြမ်း) နှင့် B.O.T Contract (မူကြမ်း)တို့ အပေါ်သဘောထား မှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာ ဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါ သည်။

၂။ ရည်ညွှန်းချက်(၁)ပါကိစ္စရပ်နှင့်စပ်လျဉ်း၍ အဆိုပါ Land Lease Agreement (မူကြမ်း) နှင့် B.O.T Contract (မူကြမ်း)တို့ အပေါ်သဘောထား မှတ်ချက် ပြန်ကြားပေးပါရန် သစ်တောဦးစီးဌာနက ရည်ညွှန်းချက်(၂)ပါစာဖြင့် တောင်းခံခဲ့ပါသည်။ ရည်ညွှန်းချက်(၂)ပါ စာဖြင့်သဘောထားမှတ်ချက်တောင်းခံသည့် Land Lease Agreement (မူကြမ်း) ၌ Effective Date ၊Term ၊ Arbitration ၊ Force Majeure ၊Termination ၊ Governing Law ၊ Renegotiation စသည့် ဥပဒေရေးရာစာပိုဒ်များ ပါဝင်ခြင်းမရှိသည့်အပြင် စာချုပ်(မူကြမ်း)များ၌ အခြားစည်းကမ်းချက်များလည်း လိုအပ်လျက်ရှိကြောင်း စိစစ်တွေ့ရှိရသဖြင့် ဥပဒေရေးရာစာပိုဒ် များ ပါဝင်ပြီးပြည့်စုံသော စာချုပ်ဖြစ်စေရေးအတွက် အဆိုပါစာချုပ်(မူကြမ်း) ၂ရပ်နှင့်စပ်လျဉ်း၍ ဆွေးနွေးပြောဆိုနိုင်မည့် တာဝန်ရှိသူအား ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ စေလွှတ်ပေးပါရန် ရည်ညွှန်းချက်(၃)ပါစာဖြင့်ညှိနှိုင်းအကြောင်းကြားခဲ့ပါသည်။ ၉-၉-၂၀၁၃ရက်နေ့တွင် သစ်တောဦးစီး ဌာနမှတာဝန်ရှိသူသည် ဤရုံးသို့လာရောက်တွေ့ဆုံဆွေးနွေးပြီးနောက် ပြန်လည်ပြင်ဆင်ပြုစု ထားသောစာချုပ်(မူကြမ်း)၂ရပ်ကို ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာခြင်းဖြစ်ပါသည်။

၃။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသော စာချုပ်(မူကြမ်း)၂ရပ်အနက် Land Lease Agreement (မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှလေ့လာစိစစ်၍ အောက်ပါအ တိုင်းသုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း)အပိုဒ် 2.0 Duration of Lease Agreement ၌ငှားရမ်း ကာလ၊ သက်တမ်းတိုးမြှင့်မည့်ကာလနှင့် တိုးမြှင့်မည့်အကြိမ်ရေ၊ သက်တမ်း တိုးမြှင့်ရန်ကိစ္စရပ်များအပြင် စာချုပ်ရပ်စဲခြင်းစသည်တို့ကို ရောထွေးစွာ ဖော်ပြထားသဖြင့် သီးခြားခေါင်းစဉ်များဖြင့် ဖော်ပြရန်လိုအပ်ပါသည်။ စာချုပ်

ရပ်စဲခြင်းနှင့်ဆိုင်သည့်စာပိုဒ်ကို စာချုပ်ရပ်စဲခြင်းခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ ဖော်ပြရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)အပိုဒ် 3.0 Land Lease Rental အပိုဒ်ခွဲ (a) ၌ ငှားရမ်းခကို ပစ္စည်းများ (actual building Villas or tents usage) အပေါ်မူတည်၍ တွက်ချက်ထားပြီးကျန်စည်းကမ်းချက်များ၌ demised premises ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ ငှားရမ်းရာ၌မြေကိုသာမက အဆောက်အဦများပါဝင်ခြင်းရှိ မရှိ ရှင်းလင်းတိကျစွာ ဖော်ပြရန် ဖြစ်ပါသည်။ ငှားရမ်းခကို ဖော်ပြရာ၌ ငှားရမ်းသက်တမ်းတစ်လျှောက် ပုံသေမြေငှားရမ်းခ ရယူမည့်သဘောတွေ့ရှိရပါသည်။ ငှားရမ်းခကို တိုးမြှင့်ရယူရန်သင့်မသင့် ဌာနအနေဖြင့် စဉ်းစားသင့်ပါသည်။ ထို့အပြင် အဆိုပါအပိုဒ်ခွဲ (a) ၌ အငှားချထားခြင်းခံရသူ (Lessee) သည် မူလတည်ရှိသည့် နေရာထက်မြေနေရာကို ပိုမိုအသုံးပြုလိုပါက ထိုသို့အသုံးပြုမှုအတွက် နောက်ထပ်နှစ်စဉ် ငှားရမ်းခကိုပေးရမည်ဖြစ်ကြောင်း ဖော်ပြထားရာမြေနေရာကို ကြိုတင်ရယူထားသည့်သဘောဖြစ်နေ၍ အမှန်တကယ်ငှားရမ်းမည့်မြေ(ကျွန်း)ဧရိယာ အတိအကျကိုသာ စာချုပ်၌ ထည့်သွင်းရန် ဖြစ်ပါသည်၊

(ဂ) ရည်ညွှန်းချက်(၁)ပါစာကွင် တနင်္သာရီတိုင်းဒေသကြီး၊ ဘုတ်ပြင်းမြို့နယ်ရှိ လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်အတွင်း သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်း တည်ဆောက်ရန်အတွက် ချုပ်ဆိုမည့် Land Lease Agreement (မူကြမ်း)ဟုဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)တွင် မည်သည့်နေရာရှိ မြေ(ကျွန်း)တို့ကို ငှားရမ်းမည်ဖြစ်ကြောင်းဖော်ပြထားခြင်းမရှိသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ ငှားရမ်းမည့်မြေ(ကျွန်း)တို့သည် မည်သည့်နေရာတွင် တည်ရှိကြောင်း တည်နေရာ၊လိပ်စာအပြည့်အစုံနှင့်မြေဧရိယာအကျယ်အဝန်း

လျှို့ဝှက်

တို့ကို သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြရန်လိုအပ်ပါသည်။ ထို့အပြင် ငှားရမ်းမည့်မြေ(ကျွန်း)၏ မြေပုံနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာက တရားဝင်ရေးဆွဲသော မြေပုံဖြစ်ရန်လိုအပ်ပြီး ၎င်းမြေပုံတို့ကို နောက်ဆက်တွဲဖြင့်ဖော်ပြရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ်3.0၊ အပိုဒ်ခွဲ(b) ၌ ဖော်ပြချက်အရ ငှားရမ်းမည့်မြေဧရိယာ(ကျွန်း)များသည် တစ်ဆက်တစ်စပ်တည်းမဟုတ်ဘဲ တည်နေရာသီးခြားစီဖြစ်ပါကသီးခြားစာချုပ်တစ်ရပ်စီချုပ်ဆိုရန် လိုအပ်မည်ဖြစ်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် 4.0 Payment ၌ ပထမနှစ်အတွက် မြေငှားရမ်းခကို Soft Opening ပြုလုပ်သည်နှင့် တစ်ပြိုင်နက်တည်း (B.O.T Agreement) ၌ ဖော်ပြသကဲ့သို့ပေးချေရမည်ဟုဖော်ပြထားရာ Soft Opening ဖွင့်လှစ်နိုင်ခြင်းမရှိပါက မြေငှားရမ်းခရရှိနိုင်ခြင်းမရှိမည်ကို သတိပြုရန် ဖြစ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ်5.0 Land Use Premium ၌Land Use Premium ကို (၂)ရစ်ခွဲပေးမည်ဖြစ်ကြောင်းဖော်ပြထားပြီး အပိုဒ်ခွဲ(b) ၌ ဒုတိယအရစ်ဖြစ်သော အမေရိကန်ဒေါ်လာ25,000 ကို ဟိုတယ်အား တရားဝင်/စီးပွားဖြစ်ဖွင့်လှစ်သည့်နေ့မှ ရက်ပေါင်း၃၀အတွင်းပေးချေရမည် ဟုဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ဟိုတယ်အား တရားဝင်/စီးပွားဖြစ်ဖွင့်လှစ်မှသာ Land Use Premium ၏ ဒုတိယအရစ်ရရှိမည်ဟူသော အချက်ကို ဌာနအနေဖြင့် သတိပြုသင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် 6.0 Obligation of the Lessor အပိုဒ်ခွဲ(a) ၌ Lessor (ဌာန)သည်Lessee သို့ ငှားရမ်းကာလအတွင်း နှစ်ရှည်ငှားရမ်းသည့်အဆောက်အဦများကို Lessor ၏ ကြိုတင်ခွင့်ပြုချက်မလိုဘဲ ထိန်းသိမ်း

ရန်၊ ပြင်ဆင်ရန်အတွက် ခွင့်ပြုရမည်ဟု ဖော်ပြထားပါသည်။ ဌာန၏ ကြိုတင်ခွင့်ပြုချက်မလိုဘဲ(without prior consent of the Lessor) ဟူသော ဖော်ပြချက်ကို ဌာနအနေဖြင့် လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း)အပိုဒ် 6.0 အပိုဒ်ခွဲ(d) ၌ Lessor သည် ငှားရမ်းကာလ (၅၀+၁၀+၁၀)ဟု ဖော်ပြထားရာငှားရမ်းသည့် နှစ်ကို နှစ်၇၀ တစ်ခါတည်း ပေးသည့် သဘောသက်ရောက်နေ၍ ဌာနမှပြန်လည်စိစစ်ရန် ဖြစ်ပါသည်။ ထို့အပြင် သက်တမ်းမကုန်ဆုံးမီ Lessee ကြောင့်လည်း စာချုပ်ကို ရပ်စဲရမည့် ကိစ္စရပ်များပေါ်ပေါက်လာနိုင်သဖြင့် ဌာနအနေဖြင့် အဆိုပါစည်းကမ်းချက်ကို လက်ခံရန်မသင့်ဟုယူဆပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ် 6.0 အပိုဒ်ခွဲ(e) ၌ Lessor မှ ကူညီဆောင်ရွက်ပေးရမည့်ကိစ္စရပ်များ ကိုဖော်ပြထားရာ အခြားဌာနများနှင့် သက်ဆိုင်သော ကိစ္စရပ်များကို ပါဝင်နေ၍ Lessor အနေဖြင့် သက်ဆိုင်ရာဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ရန် လိုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ် 7.0၊ အပိုဒ်ခွဲ(c)၌ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ဖော်ပြထားရာ သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြရန်ဖြစ်ပြီး အလားတူ စာချုပ်များတွင် အသုံးပြုလေ့ရှိသော Protection of Environment စာပိုဒ်အား Slip ကပ်ပေးလိုက်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)အပိုဒ် 7.0၊ အပိုဒ်ခွဲ(d)၌ Lessor မှလွတ်လပ်စွာ ဝင်ရောက်ခွင့်နှင့်စပ်လျဉ်း၍ Arbitration ဖြေရှင်းဆောင်ရွက်မည်ဟုဖော်ပြ ထားရာ

လွှတ်လပ်စွာဝင်ရောက်ပိုင်ခွင့်အား Arbitration ဖြင့်ဖြေရှင်းရန် မသင့်ဟု ယူဆပါသည်၊

(ဌ) Right of Re-entry နှင့်စပ်လျဥ်း၍ အလားတူစာချုပ်များတွင်အသုံးပြုလေ့ရှိသော စာပိုဒ်အား Slip ကပ်ပေးလိုက်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် 7.0 Obligations of Lessee ၌ အငှားချထားသည့် မြေအဆောက်အဦများကို ရောင်းချခြင်း ၊ပေါင်နှံခြင်း (သို့မဟုတ်) လွှဲပြောင်းခြင်းမပြုရဆိုသောအချက်အား ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) အပိုဒ် 8.0 Term of Agreement အပိုဒ်ခွဲ(a) ၌ နှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှ နှစ် ၅၀ ငှား၍ ၁၀နှစ်နှစ်ကြိမ် သက်တမ်းတိုးခြင်းနှင့်စပ်လျဥ်း၍ စာချုပ်(မူကြမ်း)အပိုဒ်2.0 ၌ ဖော်ပြထားသည့်အတိုင်း "with applicable governmental approval"ဟု ဖော်ပြသင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း)အပိုဒ်8.0 အပိုဒ်ခွဲ(b) ၌ Lessee သည် ပထမနှစ်အတွက်ငှားရမ်းခကို Soft Opening of the Hotel ဖွင့်လှစ်ပြီးနောက် (B.O.T Agreement တွင် ဖော်ပြထားသကဲ့သို့ ) ရက်ပေါင်း(၆၀)အတွင်း ပေးချေ ရမည်ဟုဖော်ပြထားပါသည်။ အပိုဒ် 4.0 Payment ၌ ရက်ပေါင်း ၆၀ အတွင်းဟု ဖော်ပြထားခြင်းမရှိ၍ စည်းကမ်းချက်ချင်း ကိုက်ညီစေရေးအတွက် ဌာနမှပြန်လည်စိစစ်ရန်လိုအပ်ပါသည်။ထို့အပြင် အပိုဒ်8.0 အပိုဒ်ခွဲ(b)နှင့်(c) တို့၌ ဖော်ပြထားချက်များသည် ငှားရမ်းခပေးချေမှုနှင့် နောက်ကျပေးချေမှု အတွက် ဒဏ်ကြေးပေးဆောင်မှုတို့ကို ဖော်ပြထားခြင်းဖြစ်သဖြင့် အဆိုပါ အချက်၂ချက်ကို အပိုဒ် 4.0 Payment ခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ဖော်ပြရန် ဖြစ်ပါသည်၊

(တ) စာချုပ်(မူကြမ်း)အပိုဒ်9.0 Re-Transfer and Sublease of Lease Property အပိုဒ်ခွဲ (b) တွင် ဖော်ပြထားချက်အရ စာချုပ်သက်တမ်းကုန်ဆုံးမှသာ လွှဲပြောင်းမည့်သဘောသက်ရောက်နေသဖြင့် စာချုပ်သက်တမ်းကုန်ဆုံးလျှင် လွှဲပြောင်းရုံသာမက စာချုပ်ရပ်စဲပါကလည်း လွှဲပြောင်းရမည်ဆိုသော အချက်အား ဖော်ပြရန် လိုအပ်ပါသည်၊

(ထ) စာချုပ်(မူကြမ်း)အပိုဒ် 9.0 အပိုဒ်ခွဲ(e) နှင့် အပိုဒ်19.0 အပိုဒ်ခွဲ (b) ဒုတိယဝါကျ၌ Lessor သည် Lessee ၏ အခွင့်အရေးဖြစ်သော အငှားချထားသည့် အဆောက်အဦ၏ အစိတ်အပိုင်းအား affiliated legal entity သို့ ထပ်ဆင့်ငှားရမ်းခြင်းကို အသိအမှတ်ပြုရမည်ဖြစ်ကြောင်း ဖော်ပြထားရာ Lessee အနေဖြင့် ယခုငှားရမ်းသည့် မြေအား တစ်ဆင့်ငှားရမ်းမည်ဆိုပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေများ- ၆၄ နှင့် အညီဆောင်ရွက်ရန်လိုအပ်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း)အပိုဒ်11.0 Registration ၌ အခွန်အခများနှင့် ဤစာချုပ်ကို မှတ်ပုံတင်ရာ၌ ကုန်ကျစရိတ်များအားလုံးကို Lessor မှ ကျခံရမည်ဆိုသောအချက်ကို ဌာနအနေဖြင့် သတိပြုသင့်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း)တွင် Force Majeure နှင့်စပ်လျဉ်း၍ B.O.T Contract (မူကြမ်း)ပါ စည်းကမ်းချက်နှင့်တူညီမှုမရှိ၍ B.O.T Contract (မူကြမ်း) ၌ ဖော်ပြထားသည့်အတိုင်း ဖော်ပြရန်သင့်ပါသည်၊

(န) စာချုပ်(မူကြမ်း)အပိုဒ် 13.0 Arbitration ၌ arbitration ကုန်ကျစရိတ်များကို မည်သူကကျခံရမည်ဆိုသောအချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ပ) စာချုပ်(မူကြမ်း)အပိုဒ် 15.0 Effective Date ၌ စာချုပ်အား သက်တမ်းတိုးမြှင့်သည့်ကိစ္စရပ်ကိုပါ ဖော်ပြထားရာ သက်တမ်းတိုးမြှင့်ခြင်းနှင့်စပ်လျဉ်း၍ အပိုဒ် 2.0 ခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ဖော်ပြရန်ဖြစ်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း)အပိုဒ် 16.0 Conditions Precedent ခေါင်းစဉ်အောက်၌ ဖော်ပြထားသော အပိုဒ်ခွဲ (a) နှင့် (b) သည် Conditions Precedent နှင့်သက်ဆိုင်ခြင်းမရှိဟုယူဆပါသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

(ဗ) စာချုပ်(မူကြမ်း)အပိုဒ် 16.0 Conditions Precedent ၊ အပိုဒ်ခွဲ (h) သည် Warranty and Representation နှင့်သက်ဆိုင်သဖြင့် Warranty and Representation ဟု မင်နီဖြင့်ခေါင်းစဉ်တပ်ပေးလိုက်ပါသည်၊

(ဘ) စာချုပ်(မူကြမ်း) အပိုဒ် 17.0 Renegotiation ဒုတိယဝါကျ၌ စာချုပ်ဝင်များသည် စာချုပ်ကို ပြင်ဆင်ရန် သဘောမတူလျှင် နှင့် အငြင်းပွားမှုတစ်စုံတစ်ရာကို ငြိမ်းချမ်းစွာမဖြေရှင်းနိုင်လျှင် arbitration နည်းဖြင့် ဖြေရှင်းဆောင်ရွက်မည်ဟုဖော်ပြထားပါသည်။ ဥပဒေကြောင်းအရ စာချုပ်ကိုစာချုပ်ဝင်များသဘောတူမှသာ ပြင်ဆင်နိုင်သဖြင့် စာချုပ်ကိုပြင်ဆင်ရန်သဘောမတူပါက arbitration ဖြင့် ဖြေရှင်းဆောင်ရွက်ရန်မသင့်ဟု သဘောရရှိပါသည်၊

(မ) စာချုပ်(မူကြမ်း)အပိုဒ် 18.0 Termination အပိုဒ်ခွဲ (a) ၌ စာချုပ်ဝင်တစ်ဖက်ဖက်သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ချိုးဖောက်ပါက စာချုပ်ကို ရပ်စဲနိုင်သည်ဟူသော စည်းကမ်းချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်။ ထို့အပြင် အပိုဒ်ခွဲ(b) ၌ အငှားချထားသည့်အဆောက်အဦများကို အစိုးရကသိမ်းယူပါက စာချုပ်ရပ်စဲရန်သဘောတူသည့်အပြင် Lessee ရပိုင်

ခွင့်ရှိသောလျော်ကြေးများကို အစိုးရထံမှရရှိစေရန် Lessor မှ အာမခံကြောင်း ဖော်ပြထားရာ ဌာနအနေဖြင့် သတိပြုသင့်ပါသည်၊

(ယ) စာချုပ်(မူကြမ်း)အပိုဒ် 18.0 အပိုဒ်ခွဲ(c) ၌ Lessor မှ စာချုပ်ကို မှားယွင်းစွာရပ်စဲခဲ့ပါကရပ်စဲခြင်းကြောင့် Lessee သို့ နစ်နာမှုအားလုံးအတွက် လျော်ကြေးများပေးရမည့်အပြင် Lessee ၏ အခွင့်အရေးများကို မထိခိုက်စေဘဲ Lessor မှ ၄င်း၏ ဝတ္တရားများကို အပြည့်အဝဆောင်ရွက်ပေးရမည်ဟူသော ဖော်ပြချက်ကို ဌာနမှသတိပြုသင့်ပါသည်၊

(ရ) စာချုပ်(မူကြမ်း)အပိုဒ် 18.0 အပိုဒ်ခွဲ (d) ၌ Lessee အား အငှားချထားသည့်အဆောက်အဦများ၌ ဆက်သွယ်ရေးပစ္စည်းများ( any safe communication equiptment) ယူဆောင် တပ်ဆင်ခွင့် ပြုပေးရမည်ဖြစ်ကြောင်း ဖော်ပြထားချက်သည် စာချုပ်ရပ်စဲခြင်းနှင့် မသက်ဆိုင်သဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါ သည်၊

(လ) စာချုပ်(မူကြမ်း)ပါလုပ်ငန်းများကိုလုပ်ဆောင်ရာတွင်မြန်မာနိုင်ငံ၏ဥပဒေများနှင့်အညီလုပ်ဆောင်ရန်အတွက် Law of Performance စည်းကမ်း ချက်ကို မင်နီဖြင့်ရေးသားပေးလိုက်ပါသည်။ မြန်မာနိုင်ငံ၏ဥပဒေများနှင့်အညီ ဆောင်ရွက်ရန်ဖော်ပြသည့်အတွက် မြန်မာနိုင်ငံ၏ဥပဒေများနှင့် ဆန့်ကျင်ခြင်းမရှိရန် လိုအပ်ပါသည်၊

(ဝ) စာချုပ်(မူကြမ်း)၌ စာချုပ်ဝင်အချင်းချင်း ဆက်သွယ်အကြောင်းကြားရမည့် လိပ်စာအပြည့်အစုံကို သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြရန် လိုအပ်ပါသည်၊

(သ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

လှိုင့်ဆက်

၄။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသော B.O.T Contract (မူကြမ်း)အား ဥပဒေ ရှုထောင့်မှ လေ့လာစိစစ်ပြီးအောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) WHEREAS ပထမအပိုဒ်၌ ငှားရမ်းကာလဟုဖော်ပြထားချက်မှာ နှစ် ၇၀ကို တစ်ခါတည်း ငှားရမ်းခွင့်ပြုသည့်သဘောဖြစ်နေ၍ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) WHEREAS ဒုတိယပိုဒ်နှင့် အပိုဒ်ခွဲ 8.1 ၌ ဟိုတယ်လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်မည်ဖြစ်ကြောင်းဖော်ပြထားရာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁-၂၀၁၃ ရက်စွဲပါ အမိန့်ကြော်ငြာ စာအမှတ်၊ ၁/၂၀၁၃ ၌ ဟိုတယ်လုပ်ငန်းနှင့်စပ်လျဉ်း၍ ကြယ်သုံးပွင့်နှင့် အထက်အဆင့်သာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ၁၀၀ ရာခိုင်နှုန်းခွင့်ပြုပြီး အခြားတွင် JV ဖြင့်သာခွင့်ပြုမည်ဟု ထုတ်ပြန်ထားကြောင်းကို သိရှိနိုင်ရန်အတွက်ဖော်ပြအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) WHEREAS တတိယပိုဒ်၌ Party A (ဌာန)သည် Party B (ကုမ္ပဏီ)အားငှားရမ်းသည့်နှစ်ပေါင်း(၇၀)အတွက် ဟိုတယ်အားပိုင်ဆိုင်သည်ကိုသဘောတူကြောင်းဖော်ပြထားပါသည်။ယခုချုပ်ဆိုမည့်စာချုပ်အမျိုးအစားမှာ Build, Operate, Transfer Contract ဖြစ်ပါသည်။ B.O.T Contract ၏သဘောအရ စာချုပ်ဝင်ကုမ္ပဏီသည် ငှားရမ်းသည့်မြေပေါ်တွင် အဆောက်အဦများကိုဆောက်လုပ်၍ လုပ်ငန်းဆောင်ရွက်ပြီး ငှားရမ်းကာလကုန်ဆုံးပါ က မြေပိုင်ရှင်(ဌာန)သို့ ပြန်လည်လွှဲပြောင်းပေးရခြင်းဖြစ်သဖြင့် အဆိုပါ စာပိုဒ်ပါ“ own” ဟူသော စကားရပ်အား ပယ်ဖျက်သင့်ပါသည်၊

လျှို့ဝှက်

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် 2.0 Definition ခေါင်းစဉ်အောက်ရှိ Land ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်တွင် ငှားရမ်းသည့်မြေ၏ တည်နေရာဒေသ၊ လိပ်စာ အပြည့်အစုံနှင့် အကျယ်အဝန်းတို့အား တိကျစွာဖော်ပြရန်လိုအပ်ပြီး ငှားရမ်းသည့်မြေ(ကျွန်း)များသည် တစ်ဆက်တစ်စပ်တည်းမဟုတ်ပဲ သီးခြားစီဖြစ်ပါ ကစာချုပ်များကို သီးခြားစီချုပ်ဆိုရန် ဖြစ်ပါသည်။ ငှားရမ်းသည့်မြေ၏ မြေပုံအားနောက်ဆက်တွဲဖြင့် ဖော်ပြရန်ဖြစ်ပြီး သက်ဆိုင်ရာက တရားဝင် ရေးဆွဲသောမြေပုံဖြစ်ရန် လိုအပ်ပါသည်။ အဆိုပါစာပိုဒ်၌ Appendix 1 ဟု ရေးသားထားသော်လည်း စာချုပ်(မူကြမ်း)၌ Appendix 1 ပူးတွဲ ပါရှိလာခြင်းမရှိ၍ ဌာနမှပြန်လည်စိစစ်ရန် ဖြစ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ်2.0 ၌ Soft Opening နှင့်Official Opening တို့အား အဓိပ္ပါယ်ဖွင့်ဆိုထားချက်မှာရှင်းလင်းမှုမရှိသဖြင့် ရှင်းလင်းစွာဖော်ပြ ရန် လိုအပ်ပါသည်။ထို့အပြင် နောင်အငြင်းပွားမှုမဖြစ်စေရန်အတွက် Soft Opening ကို စာချုပ်တွင် လက်မှတ် ရေးထိုးပြီး မည်သည့်ကာလအတွင်း ဖွင့်လှစ်မည်ဟုလည်းကောင်း၊ Official Openin ကိုမည်သည့်ကာလတွင် ဖွင့်လှစ်မည်ဟုလည်းကောင်း အချိန်ကာလတိကျစွာ သတ်မှတ်ဖော်ပြပါက ပိုမို သင့်လျော်မည်ဟုယူဆပါသည်၊ ဖြစ်ပြီး

(စ) စာချုပ်(မူကြမ်း)အပိုဒ်4.0 Form of Co-operation ၊ အပိုဒ်ခွဲ 4.1 ၊ အပိုဒ်ခွဲ9.5 နှင့် အပိုဒ်ခွဲ19.2 တို့၌" Party B shall have the right to sublease part of the land to an Affilite -------." ဟုဖော်ပြ ထားပါသည်။ ငှားရမ်းမည့်မြေကို တစ်ဆင့်ငှားရမ်းမည်ဆိုပါက နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေများ- ၆၄ နှင့် အညီဆောင်ရွက်ရန် လိုအပ်ပါသည်၊

လျှို့ဝှက်

(ဆ) စာချုပ်(မူကြမ်း)အပိုဒ်4.0 Form of Co-operation ၏ အပိုဒ်ခွဲ 4.1 ၌ " ... to construct, manage and operate similar hotel, as well as resorts, villas tents, public area, etc."ဟု ဖော်ပြထားပါသည်။ အငှားချထားရာတွင်မြေသာမကအဆောက်အဦများ ပါဝင်ခြင်းရှိမရှိ ပြန်လည်စိစစ်ရန်နှင့် အငှားချထားသည့်ပစ္စည်းများကို သီးခြားခေါင်းစဉ်ဖြင့် ရှင်းလင်းတိကျစွာ ဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4.2 ၌ ဖော်ပြထားသော အဆောက်အဦများနှင့် စပ်လျဉ်း၍ အဆောက်အဦပုံစံများကို နောက်ဆက်တွဲဖြင့် ဖော်ပြသင့်မသင့် စဉ်းစားသင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် 5.0 Land Used Premium နှင့်စပ်လျဉ်း၍ အထက်အပိုဒ်၃ (စ)ပါ အတိုင်း အကြံပြုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ်6.0 Land Lease Rental ၏အပိုဒ်ခွဲ6.2 တွင် ငှားရမ်းခအား ပစ္စည်းများ(အမှန်တကယ်ရှိသည့်အဆောက်အဦများ)အပေါ်မူတည်၍ တွက်ချက်ထားရာ ငှားရမ်းရာ၌မြေကိုသာမက အဆောက်အဦများ ပါဝင်ခြင်းရှိမရှိ ရှင်းလင်းတိကျစွာ ဖော်ပြရန် ဖြစ်ပါသည်။ ငှားရမ်းခကို ဖော်ပြရာ၌ ငှားရမ်းသက်တမ်းတစ်လျှောက် ပုံသေမြေငှားရမ်းခရယူမည့်သဘော တွေ့ရှိရပါသည်။ ငှားရမ်းခကိုတိုးမြှင့်ရယူရန် သင့်မသင့် ဌာနအနေဖြင့် စဉ်းစားသင့်ပါသည်။ ထို့အပြင် အပိုဒ်ခွဲ14.2 နှင့်14.3 တို့တွင်ဖော်ပြထားသော ငှားရမ်းခပေးချေခြင်းနှင့် ဒဏ်ကြေးရယူခြင်းတို့ကို ယခုခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ဖော်ပြရန် ဖြစ်ပါသည်၊

လျှို့ဝှက်

(ဋ) စာချုပ်(မူကြမ်း)အပိုဒ် 7.0 Responsibilities of Party A ၌ MIC ၏ခွင့်ပြုမိန့်၊ ဟိုတယ်လုပ်ငန်းလိုင်စင်၊ ဗီဇာနှင့် work permit များရရှိရေးနှင့် လုံခြုံရေးစသည်တို့နှင့် စပ်လျဉ်း၍ ဆောင်ရွက်ပေးရမည်ဖြစ်ကြောင်း ဖော်ပြထားရာ အဆိုပါကိစ္စရပ်များနှင့်စပ်လျဉ်းပြီး သက်ဆိုင်ရာဝန်ကြီးဌာနများ နှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ရန် လိုအပ် ပါ သည်၊

(ဌ) စာချုပ်(မူကြမ်း)အပိုဒ် 8.0 Responsibilities of Party B ၊အပိုဒ်ခွဲ8.5 ၌ Party B သည် အကယ်၍ Villas အရေအတွက်(---) ထက် လျော့နည်းပါက လုပ်ငန်းဆောင်ရွက်မှုကို လိုက်နာရန်မရှိကြောင်း ဟု Villas အရေအတွက်ကို ကွက်လပ်ဖြင့်ဖော်ပြထားပါသည်။ အပိုဒ် 2.0 ၌ Hotel အား အစိပ္ပါယ်ဖွင့်ဆိုရာတွင် 80 Villas ဟုဖော်ပြထား၍ ဌာနအနေဖြင့် ပြန် လည် စိစစ် သင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 8.6 ၌ Party A မှလွတ်လပ်စွာ ဝင်ရောက်ခွင့်နှင့်စပ်လျဉ်း၍ Arbitration ဖြေရှင်းဆောင်ရွက်မည်ဟုဖော်ပြ ထားရာ လွတ်လပ်စွာဝင်ရောက်ပိုင်ခွင့်အား Arbitration ဖြင့်ဖြေရှင်းရန် မသင့်ဟု ယူဆပါသည်၊

(ဎ) Right of Re-entry နှင့်စပ်လျဉ်း၍ အလားတူစာချုပ်များတွင်အသုံးပြုလေ့ရှိသော စာပိုဒ်အား Slip ကပ်ပေးလိုက်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း)အပိုဒ် 10.0 Operation Management ၊ အပိုဒ်ခွဲ10.1 ၌ Party B သည် ၎င်းတို့၏ ကိုယ်ပိုင်ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီတစ်ခု သို့မဟုတ် ကုမ္ပဏီများအား တာဝန်ပေး၍ ဟိုတယ်လုပ်ငန်းများကို Soft Opening မှ စတင်ပြီး စီမံဆောင်ရွက်စေမည်ဖြစ်ကြောင်းဖော်ပြထားရာ

Party B သည် ၎င်း၏လုပ်ငန်းတာဝန်များကို တတိယပုဂ္ဂိုလ်(Third Party) သို့ လွှဲပြောင်းလုပ်ဆောင်စေမည့်သဘော ဖြစ်သောကြောင့် ဌာန၏ ခွင့်ပြုချက်ရရှိမှသာ လွှဲပြောင်းပေးသင့်သည်ဟု သုံးသပ်တွေ့ရှိရပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ညီမှု ရှိ မရှိပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(တ) ထို့အပြင် စာချုပ်(မူကြမ်း)အပိုဒ်ခွဲ 10.1 ၌ Party A ထံမှ ကြိုတင်ခွင့်ပြုချက် မလိုကြောင်း ဖော်ပြချက်နှင့်စပ်လျဉ်း၍ ဌာနအနေဖြင့် လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်ရန် ဖြစ်ပါသည်၊

(ထ) စာချုပ်(မူကြမ်း)အပိုဒ် 11.0 Force Majeure စာပိုဒ်၌ တစ်ဖက်စာချုပ်ဝင်က လက်ခံကြောင်း အတည်ပြုမှသာ Force Majeure မြောက်သည်ဆိုသော အချက်အား ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) အပိုဒ် 12.0 Arbitration ၌ အမှုကုန်ကျစရိတ်ကို မည်သူက ကျခံရမည်ဆိုသော အချက်အားထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း)အပိုဒ် 14.0 Terms of Agreement ၊ အပိုဒ်ခွဲ 14.1 ၌ စာချုပ်၏သက်တမ်းသည် စာချုပ်တွင်လက်မှတ်ရေးထိုးသည့်နေ့မှ ကနဦး သက်တမ်းအနေဖြင့် နှစ်၅ဝဖြစ်ကြောင်း ဖော်ပြထားပါသည်။ စာချုပ်(မူကြမ်း) WHEREAS ပထမအပိုဒ်၌ ငှားရမ်းကာလကို Soft Opening ဖွင့်သည့် နေ့မှစ၍ နှစ်၅ဝဟုဖော်ပြထားရာ စည်းကမ်းချက်ခြင်းမကိုက်ညီသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ ငှားရမ်းကာလကို သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြ ရန် လိုအပ်ပြီးစာချုပ်သက်တမ်းနှင့် ကိုက်ညီရမည့်အပြင် မြေငှားစာချုပ်တွင် ဖော်ပြထားချက်နှင့်လည်း ကိုက်ညီရန်လိုအပ် ပါသည်၊

သို့/၄က်

(န) စာချုပ်(မူကြမ်း)အပိုဒ် 16.0 Modification of the Agreement ၏ ဒုတိယဝါကျ၌ ဖော်ပြထားချက်နှင့်စပ်လျဉ်း၍ အပိုဒ် ၃(ဗ)တွင် အကြံပြုထားသည့်အတိုင်း အကြံပြုအပ်ပါသည်၊

(ပ) စာချုပ်(မူကြမ်း)အပိုဒ် 17.0 Termination ၌ စာချုပ်ဝင်တစ်ဖက်ဖက်သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ချိုးဖောက်ပါက စာချုပ်ကိုရပ်စဲနိုင်သည်ဟူသောစည်းကမ်းချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်။ ထို့အပြင် ဌာနမှ စာချုပ်ကိုမှားယွင်းစွာရပ်စဲခဲ့ပါက ရပ်စဲခြင်းကြောင့် ကုမ္ပဏီသို့ နစ်နာမှုအားလုံးအတွက် လျော်ကြေးများပေးရမည့်အပြင် ကုမ္ပဏီ၏ အခွင့်အရေးများကို မထိခိုက်စေဘဲ ဌာနမှ ၎င်း၏ဝတ္တရားများကို အပြည့်အဝဆောင်ရွက်ပေးရမည်ဟူသော ဖော်ပြချက်ကို ဌာနမှသတိပြုသင့်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း)တွင် စာချုပ်စတင်အကျိုးသက်ရောက်နေ့ (Effective Date) စာပိုဒ်မပါရှိ၍ ဖော်ပြရန်လိုအပ်ပါသည်၊

(ဗ) စာချုပ်(မူကြမ်း)ပါလုပ်ငန်းများကိုလုပ်ဆောင်ရာတွင် မြန်မာနိုင်ငံ၏ဥပဒေများနှင့်အညီလုပ်ဆောင်ရန်အတွက် Law of Performance စည်းကမ်းချက်ကို မင်နီဖြင့် ရေးသားပေးလိုက်ပါသည်။ မြန်မာနိုင်ငံ၏ဥပဒေများနှင့်အညီဆောင်ရွက်ရန် ဖော်ပြသည့်အတွက် မြန်မာနိုင်ငံ၏ဥပဒေများနှင့် ဆန့်ကျင်ခြင်းမရှိရန် လိုအပ်ပါသည်၊

(ဘ) စာချုပ်(မူကြမ်း)၌ စာချုပ်ဝင်အချင်းချင်း ဆက်သွယ်အကြောင်းကြားရမည့် လိပ်စာအပြည့်အစုံကို သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြရန် လိုအပ်ပါသည်၊

(မ) စာချုပ်(မူကြမ်း) ၌ စာချုပ်၏အမည်အား Build, Operate, Transfer Contract ဟုခေါင်းစဉ်တပ်ထားသော်လည်း စာချုပ်(မူကြမ်း)ပါစည်းကမ်းချက်များ၌ Contractအစား Agreement ဟု သုံးနှုန်းထား၍ အသုံးအနှုန်းတစ်ပြေးညီစေရန် ဌာနမှ ပြန်လည်စိစစ်ရန် ဖြစ်ပါသည်၊

(ယ) စာချုပ်(မူကြမ်း) တွင် လုပ်ငန်းအာမခံရယူထားခြင်းမရှိ၍ လုပ်ငန်းအာမခံရယူရန်သင့် မသင့် ဌာနအနေဖြင့် စဉ်းစားသင့်ပါသည်၊

(ရ) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(လ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၅။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရကျသင့်သော တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၆။ စာချုပ်(မူကြမ်း)တွင်ပါရှိသော အမှတ်စဉ်များအစီအစဉ်တကျရှိစေရေးနှင့် ရည်ညွှန်းချက်များ မှန်ကန်မှုရှိစေရေးအတွက် ဌာနမှတာဝန်ယူပြင်ဆင်ရန်ဖြစ်ပါသည်။

၇။ ဤစာချုပ်(မူကြမ်း) ၂ရပ်ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်း အရသာဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

လျှို့ဝှက်

၈။ Wa Ale Hotel and Resort Co., Ltd သည် သက်ဆိုင်ရာနိုင်ငံ၏ ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်များတွင် လက်မှတ် ရေးထိုးမည့်သူများသည် တရားဝင်လွှဲအပ်ခြင်းခံရသူများ ဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၉။ ဤစာချုပ်(မူကြမ်း) ၂ရပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်စီပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

15/10/2013

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေသီလင်း၊ ညွှန်ကြားရေးမှူး )

**သစ်တောဦးစီးဌာန**

**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန**

<u>လို့မှတ်</u>

Appendix 8.A

# LAND LEASE AGREEMENT

BETWEEN

MINISTRY OF ENVIRONMENTAL CONSERVATION AND FORESTRY

AND

BENCHMADE ASIA (MYANMAR) LTD.

This Lease Agreement ("**Agreement**") is entered into at Nay Pyi Taw in the Republic of the Union of Myanmar on this [.....] day of [month] of the year [..........] by and between:

A. **The Ministry of Environmental Conservation and Forestry of the Republic of the Union of Myanmar** situated at **Building 39, Forestry Department, Nay Pyi Taw** and represented for the purpose of this Agreement by **[Dr. NyiNyi Kyaw, Director General of the Forest Department]**(herein after referred to as the **Lessor** which expression shall be deemed to include its successors and permitted assigns) of the **ONE PART**; and

B. **BENCHMADE ASIA (MYANMAR) LTD.**, having company registration number [XXX] and registered address at [XXX] and represented for the purpose of this Agreement by **Mr. Christopher Wright Kingsley (Passport No. 488854235), Director,** residing at 14 Make Peace Road, Singapore 238623 (herein after referred to as the **Lessee** which expression shall be deemed to include its legal representatives, successors and permitted assigns), of the **OTHER PART**.

The Lessor and the Lessee are also individually referred to as "**Party**" and collectively referred to as the "**Parties**".

**WHEREAS**

I. The Lessor at the request of the Lessee hereby demises unto the Lessee subject however to the covenants, conditions, powers and provisions hereinafter contained, all those premises and surrounding grounds known as Area 1, Area 2 and Area 3 including beachfront areas in **Wa Ale Kyun, North Latitude 10� 51.1321′ & East Latitude 98� 03.774′, Lampi Island Marine National Park, Bokyin Township, Kawthoung District, Tanintharyi Region** as further described in the Annex attached hereto (collectively, hereinafter referred to as the "**Demised Premises**") be held by the Lessee for the usage of land for hotels, villas, eco villas and public areas (hereinafter referred to as the "Wa Ale Conservation Project).

II. The Lessor warrants that it has the right without restriction to lease the Demised Premises to the Lessee.

III. The Parties acknowledge and agree that the Parties will simultaneously enter into a Build, Operate, and Transfer Contract to build hotels, villas, eco villas and public areas (the "**BOT Contract**").

**NOW THEREFORE,** the Lessor and Lessee hereby agree as follows:

## 1.0 DURATION OF LEASE AGREEMENT

An initial term of 50 (fifty) years with effect from [.......] day of [............] the year [...], and ending on the [.......] day of [............] the year [...], both days inclusive (the "**Initial Term**"). This Agreement is renewable, at the option of the Lessee and with applicable governmental approval, upon expiration of the Initial Term for two additional terms of 10 years for each such additional term (altogether the Entire Lease Term). Upon obtaining necessary government approvals, the Lessee will serve notice of intent to renew the Agreement in writing to the Lessor at least 90 (ninety) days before the Agreement would otherwise expire.

## 2.0 LAND LEASE RENTAL

(a) The rental is **US$400.00(four hundred United States Dollars) per acre per year** for approximately **100.15 acres** (comprises of Area 1of 39.25 acres; Area 2of 53.70 acres; and Area 3of 7.20 acres) being that land which is more particularly described on the Annex attached hereto.

## 3.0 PAYMENT

(a) The land lease rental payment (referred to in clause 2) for the first year shall be made on the date being either, one year from the date of signing of this Agreement or one year from the date the Lessee obtains its Myanmar Investment Commission (MIC) Permit, whichever of the two dates comes later, and annual rental for the following years shall be made within 60 days before the commencement date of every lease year.

(b) Late payments shall incur a penalty of an additional US$50 (fifty United States Dollars) per day.

(c) In the event of the occurrence of Force Majeure, as more particularly described in clause 12(c) of this Agreement, which requires a recalculation of the rent referred to above in clause 3 (a) of this Agreement, the Lessee must submit notice in writing to the Lessor of the occurrence of Force Majeure seeking a recalculation of the rent and the Parties must complete the recalculation of the rent within a period of 30 (thirty) days from the date of the written notification referred hereto.

## 4.0 LAND-USE PREMIUM

A nonrefundable lump sum **land-use premium of US$75,000** (seventy five thousand only United States dollars) shall be made by the Lessee to the Lessor in two installments (for which the Lessor shall provide official receipts), as follows:

(a) US$37,500 (thirty seven thousand five hundred only United States Dollars) within 30 (thirty) days from the date of signing of this Agreement; and

(b) US$37,500 (thirty seven thousand five hundred only United States Dollars) 1 (one) year from the date of signing of this Agreement.

## 5.0 OBLIGATIONS OF THE LESSOR

The Lessor agrees as follows:

(a) To allow the Lessee to maintain and keep in good repair and condition throughout the said, the Initial Term and any extensions as per clause 1.0 of this Agreement, duration of lease the Demised Premises without prior consent of the Lessor.

(b) To allow the Lessee to make changes or alterations upon or under the Demised Premises, including digging, excavating, and filling with prior approval from the relevant Ministries.

(c) To ensure that the Lessee shall peacefully hold, use and enjoy the said Demised Premises throughout the duration of the lease without any interruption of disturbance by the Lessor or any person claiming under or in trust for the Lessor.

(d) The Lessor warrants that the Demised Premises are solely owned by the Lessor and has not been sold, mortgaged, kept as surely and it is free from all encumbrances (except as permitted by applicable law and approved by the Myanmar Investment

Commission). If any dispute arises the Lessor is responsible to solve at his own expense and the Lessor shall offer reasonable cooperation.

(e) In the event, the Lessor terminates this Agreement before the expiration of the Initial Term of the lease by giving notice or by any other means the Lessee has a right to claim damages suffered.

(f) To support, assist, and maintain in the process of applying for the approvals of MIC, the Ministries concerned, as well as any and all other required permits and approvals, as and every necessary arrangements to execute this Agreement legally.

(g) The Lessor agrees that the Lessee shall be permitted to bring upon or install in the Demised Premises any safe communication equipment or other plant and equipment for the purpose and use of the Lessee implementing the business as necessary.

## 6.0 OBLIGATIONS OF THE *LESSEE*

The Lessee agrees as follows:

(a) To pay the rent as it becomes due in accordance with the terms of this Agreement. The said rent shall be paid only to the Lessor or a bank nominated by the Lessor that can collect the rent.

(b) To permit the Lessor or his representatives appointed with written document at a time agreed on by the Lessee and accompanied by a representative of the Lessee to enter upon the Demised Premises for inspections, provided always that in the exercise of any such power the Lessor will endeavour to avoid unduly inconveniencing the Lessee.

(c) To perform and observe the terms and conditions of this Agreement, and to rectify any notice from the Lessor of an alleged non-performance or non-observance within 90 (ninety) days after the notice in writing from the Lessor of same, the Lessor shall be at liberty to submit the matter to arbitration pursuant to clause 13 hereof.

(d) At the expiration of this Agreement, to quietly surrender and yield up unto the Lessor the whole of the Demised Premises with clean vacant possession and in good and substantial repair and condition.

## 7.0 RE-TRANSFER AND SUBLEASE OF LEASED PROPERTY

(a) During the Entire Lease Term, the Lessee shall undertake normal maintenance and due care of the leased property. The Lessee shall seek the prior written consent of the Lessor to construct additional buildings or extension of buildings to the hotels, villas, eco villas and public areas after the initial foreign investment has been made.

(b) At the termination of the Entire Lease Term or if terminated during the lease-term, the Lessee shall transfer the leased land and immovable properties including buildings without any consideration to the Lessor within 3 (three) months in good condition, with any ground damage having been repaired.

(c) The Lessee shall have the right to maintain possession of all movable properties on the leased land, which shall be removed at its own cost and or disposed of within 3(three) months from the date of expiry of the leased term, not affecting the Lessor's right to claim for the rent up to the date of such removal or disposal and any damages caused to the leased land by the Lessee.

(d) If the Lessee wishes to manage and operate the hotels after termination of this Agreement, then a management agreement with new terms and conditions may be negotiated and concluded within 6 (six) months before the expiry of this Agreement.

(e) The Lessor recognizes the Lessee's right to sublease a portion of the Demised Premises provided the Lessee has obtained prior MIC approval to the sublease, to an affiliated legal entity (i.e., an entity in which at least some of the shareholders in the Lessee are also shareholders in the affiliated company, and hereinafter, an "**Affiliate**") for the same purposes as described herein (i.e., for the usage of land for hotels, villas, eco villas and public area), provided that such sub-lessee recognizes and adheres to all the terms and conditions of this Agreement, and the Lessor agrees not to unreasonably withhold approval for such sublease at the request of the Lessee.

## 8.0 RIGHTS OF RE-ENTRY

If the Lessee in any substantial respect fails to perform or observed the terms and conditions of this Lease and fails to rectify such non-performance or non-observance within 60 (sixty) days after the notice in writing from the Lessor of such default, the Lessor shall be at liberty to re-enter upon and take possession of the whole complex of the lease land and Demised Premises and the BOT Contract shall, thereupon, determine and terminate, provided that such right of re-entry shall not prejudice any right of action of the Lessor for recovery of money from the Lessee by way rent or compensation for damages.

## 9.0 PROTECTION OF ENVIRONMENT

The Lessee shall responsible for the protection and preservation of the environment in and around the land and shall be able to control pollution of air, water and land and not to cause any environmental degradation. The Lessee shall also take necessary measure in order to take environmental protection in accordance with Myanmar laws, rules and regulations.

## 10.0 MINERAL RESOURCES AND TREASURES

Mineral resources, treasures, gems and other natural resources, discovered unexpectedly from, in or under the leased land during the term of this Agreement, shall be the property of the Lessor and the Lessor shall be at liberty to excavate the aforesaid resources at any time, in accordance with laws, rules and regulations of the Republic of the Union of Myanmar, provided that they do not disrupt the Lessee's right of use and quiet enjoyment of the leased land.

## 11.0 REGISTRATION

The Parties shall mutually arrange and complete the registration of this Agreement at the relevant government authority within 30 (thirty) days of signing. All taxes, duties and fees including but not limited to any and all expenses incurred in relation to the registration of this Agreement shall be borne by the Lessee.

## 12.0 FORCE MAJEURE

a) Any failure or delay on the part of either Party in the performance of their obligations or duties hereunder shall be excused to the extent attributable to Force Majeure. The term "Force Majeure" as used herein shall mean Act of God, perils of navigation,

strikes, lockouts or other labor disturbances, war, civil disturbances, actions of a public authority which make it impossible for the Lessee to continue to carry out the proposed usage or carry out the operations of the Hotel, economic sanctions from any country or public authority affecting the performance of this Agreement, earthquakes, storms, lightning, floods, rising sea due to global warming, tsunami, cyclones, washouts, explosions and any other similar events beyond the control or without the fault of either Party and which by the exercise of due care and diligence either Party is unable to overcome.

b) If the operations of the Hotel are delayed, curtailed or prevented by such Force Majeure situation then the time for carrying out the obligations thereby effected under the terms of this Agreement and all rights and obligations hereunder shall be extended for a period equal to the duration of the Force Majeure event to a maximum of 3 months. After 3 months, the Lessee may elect to terminate the Agreement by notice to the Lessor.

c) Without prejudice to the generality of this clause 12, the Parties acknowledge and agree that each of them has entered into this Agreement and the BOT Contract on the basis that the area of the Land (i.e. 100.15 acres) is not submerged by water. If for any reason including without limitation any extreme weather event (for these purposes including, inter alia, cyclones (such as Cyclone Nargis)), the Land (or any part thereof) is completely submerged by water for a period of 6 (six) months or more then the Land area shall be deemed to be reduced owing to an extreme weather event ("**Extreme Weather Event**"). The Extreme Weather Event for the purposes of this clause 12 (c) shall be deemed to be effective on and with effect from the expiry of that 6 month period. Upon the occurrence of an Extreme Weather Event the rent which is by payable by the Lessee to the Lessor under this Agreement shall reduce by an amount (which if expressed as percentage of the rent payable prior to the occurrence of the Extreme Weather Event) is equal to the proportion by which the Land completely submerged by water at the date of the Extreme Weather Event bears to the total area of the Land (at the date hereof), and that reduced rent shall be payable on and with effect from the date of the Extreme Weather Event.

## 13.0 ARBITRATION

(a) Any dispute arising between the Parties out of or in connection with this Agreement shall first be settled through negotiations done in good faith with a view to reaching an amicable settlement.

(b) In the event that the dispute mentioned above cannot be settled amicably within 90 (ninety) days of notice of the dispute having been given to the non-complaining Party, such dispute shall be settled by applying "UNCITRAL Arbitration Rules" in an official arbitral forum in Nay Pyi Taw, Myanmar. The language of arbitration shall be English. There shall be a single arbitrator appointed by mutual agreement of the Parties, or failing such agreement, the arbitrator shall be appointed in accordance with the UNCITRAL Arbitration Rules. The resulting arbitral award shall be final and binding and judgment upon such award shall be entered in any court having jurisdiction thereof. The Parties agree to pay their own respective costs with respect to the arbitration.

## 14.0 GOVERNING LAW

This Agreement shall be governed by, read and construed in all respects in accordance with the laws of the Republic of the Union of Myanmar.

## 15.0 LAW OF PERFORMANCE

Both Parties shall carry out their obligations arising out of this Agreement in accordance with the laws, rules, regulations, directives and procedures of the Republic of the Union of Myanmar.

## 16.0 EFFECTIVE DATE

This Agreement will come into effect on the date of its signature by the Parties and will remain in effect for 50 (fifty) years.

## 17.0 WARRANTY AND REPRESENTATION

Both Parties warrant and represent that the Demised Premises are owned by the Lessor legally without restrictions and the Lessee has the enough financial situation to carry out the proposed business mentioned in this Agreement and also both Parties have full authority to execute this Agreement.

## 18.0 AMENDMENTS TO LEASE AGREEMENT

The Parties may not make any amendment or supplement to this Agreement except by an instrument in writing, signed by both Parties, and subject to the approval of Myanmar Investment Commission of the Republic of the Union of Myanmar.

## 19.0 TERMINATION

(a) This Agreement shall be terminated, as indicated below, on the occurrence of one of the following events:

   i. Agreement in writing from both Parties to terminate subject to the approval of the applicable Myanmar authorities;

   ii. The insolvency of the Lessee;

   iii. The voluntary or involuntary liquidation of the Lessee;

   iv. By Lessee due to any situation or condition arising due to Force Majeure, if such circumstances continue for longer than 3 (three) months; or

   v. A non-defaulting Party shall have the right to terminate this Agreement if the defaulting Party commits a material breach of its obligations under this Agreement and, if the breach is capable of remedy, fails to remedy the breach within ninety (90) days of being specifically required in writing so to do by the non-defaulting Party.

(b) If this Agreement is wrongfully terminated by the Lessor, the Lessor shall pay to the Lessee compensation for all damages suffered or incurred by the Lessee as a result of such termination. This is without prejudice to the rights of the Lessee to require that the Lessor give full force and effect to its obligations hereunder.

(c) If not prior terminated, this Agreement shall terminate automatically upon the termination of the BOT Contract.

## 20.0 MISCELLANEOUS

(a) The schedules and maps of the Demised Premises are as per attached and shall be construed as a part of this Agreement.

(b) Except as otherwise stated herein, no Party shall without the prior written consent of the other Party, transfer to a third party any of its rights or obligations under this Agreement. Provided, however, that the Lessor recognizes the Lessee's right to sublease part of the Demised Premises to an Affiliate with prior approval from MIC as per the terms and conditions of this Agreement and the BOT Contract.

(c) The Lessor hereby grants the Lessee the right to mortgage, charge or create security over all rights, title and interests which the Lessee may have in the leased interest in the Demised Premises, and this Agreement for the purpose of raising financial assistance.

(d) Except as otherwise specifically provided herein (and especially in relation to the BOT Contract), this Agreement contains the entire understanding of both Parties and supersedes all previous agreements and understandings between the Parties on the subject matter hereof.

(e) The Parties hereof have caused this Agreement to be made in 2(two) original copies in English and subscribed their names.

**IN WITNESS WHEREOF** the Parties have read, understood, agreed and set their hands in the presence of the witnesses on the date first above written.

| FOR AND ON BEHALF OF THE **Lessor** | FOR AND ON BEHALF OF THE **Lessee** |
|---|---|
| ...................................................... | ...................................................... |
| **[Dr. Nyi Nyi Kyaw<br>Director General<br>Forest Department]<br>Ministry of Environmental Conservation and Forestry** | **Mr. Christopher-Wright Kingsley<br>Director<br>BENCHMADE ASIA (MYANMAR) LTD.<br>14 Makepeace Road, Singapore 238623** |
| **Date:** | **Date:** |
| **In the presence of** | **In the presence of** |
| ...................................................... | ...................................................... |
| **Name:** | **Name:** |
| **ID No.** | **ID No.** |

Appendix 8.A

# ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

နှင့်

# BENCHMADE ASIA (Myanmar) LTD

တို့ ချုပ်ဆိုသော

# မြေငှားရမ်းခြင်းသဘောတူစာချုပ်

ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်ကို (                    ) ခုနှစ်၊ (                    ) လ၊ (   ) ရက်တွင် နေပြည်တော်၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၌ အောက်ပါစာချုပ်ချုပ်ဆိုသူများက ချုပ်ဆိုကြပါသည်။

(က) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** ( ရုံးလိပ်စာ) တွင် တည်ရှိသော အဆိုပါဝန်ကြီးဌာနအတွက် ဒေါ်နီနီကျော်၊ ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန၊ က ကိုယ်စားပြုလျက် (နောင်တွင် **အငှားချထားသူ** ဟု ခေါ်ဆိုမည်။ အဆိုပါစကားရပ်တွင် ၄င်း၏ဆက်ခံသူများ နှင့် တရားဝင် လွှဲပြောင်းပေးအပ်ခြင်းခံရသူများ ပါဝင်သည်)က **ပထမတစ်ဖက်အဖြစ်**နှင့်

(ခ) Benchmade Asia (Myanmar) Ltd ၊ (                    ) တွင် ရုံးခန်းဖွင့်လှစ်ထားပြီး ကုမ္ပဏီမှတ်ပုံတင်အမှတ် (          ) ဖြင့် တည်ထောင်ထားသည့် ကုမ္ပဏီအတွက် **Mr. Christopher Kingsley (Passport No. 488854235)**၊ ဒါရိုက်တာ၊ 14 Make Peace Road, Singapore 238623 တွင်နေထိုင်သူ က ကိုယ်စားပြုလျက် (နောင်တွင် **အငှားချထားခြင်းခံရသူ** ဟုခေါ်ဆိုမည်။ အဆိုပါစကားရပ်တွင် ၄င်း၏တရားဝင် ကိုယ်စားလှယ်များ၊ ဆက်ခံသူများ နှင့် တရားလွှဲပြောင်းပေးအပ်ခြင်းခံရသူများ ပါဝင်သည်) က **အခြားတစ်ဖက်အဖြစ်**

အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူတို့ကို တစ်ဦးချင်းစီအခေါ်အဝေါ်အဖြစ် **စာချုပ်ချုပ်ဆိုသူ** ဟု လည်းကောင်း၊ စုစုပေါင်းအခေါ်အဝေါ်အဖြစ် **စာချုပ်ချုပ်ဆိုသူများ** ဟု လည်းကောင်း ခေါ်ဆိုမည် ဖြစ်ပါသည်။

**<u>နိဒါန်းအပိုဒ်များ</u>**

၁။ အငှားချထားသူသည် အငှားချထားခြင်းခံရသူ၏တောင်းဆိုချက်အရ ဤသဘောတူစာချုပ်တွင် ပါရှိသော သဘောတူညီချက်များ၊ စည်းကမ်းချက်များ၊ လုပ်ပိုင်ခွင့်များ နှင့် ပြဋ္ဌာန်းချက်များနှင့်အညီ ဤသဘောတူစာချုပ်၏နောက်ဆက်တွဲတွင် ထပ်မံဖော်ပြထားသည့်အတိုင်း ကမ်းခြေမြေနေရာများ အပါအဝင် မြေကွက်အမှတ် ၁၊ မြေကွက်အမှတ် ၂၊ မြေကွက်အမှတ် ၃ ဟုအမည်တွင်သည့် မြေကွက်များ နှင့် အနီးအနားရှိ မြေကွက် များအားလုံး (အားလုံးကို စုပေါင်း၍ နောင်တွင် **ငှားရမ်းသော မြေကွက်များ**ဟု ခေါ်ဆိုမည်) ကို အငှားချထားခြင်းခံရသူအား ဟိုတယ်များ၊ villa များ၊ eco villa များ နှင့် အများပြည်သူဆိုင်ရာ နေရာများအတွက် မြေအသုံးချရန် ငှားရမ်းမည်ဖြစ်ပါသည်။ (နောင်တွင် Wa Ale Conservation စီမံကိန်း ဟု ခေါ်ဆိုမည်။)

၂။ အငှားချထားသူသည် ငှားရမ်းသောမြေကွက်များကို အငှားချထားခြင်းခံရသူအား မည်သည့် ကန့်သတ်ချက်မျှမရှိဘဲ ငှားရမ်းပိုင်ခွင့်ရှိကြောင်း အာမခံပါသည်။

၃။ စာချုပ်ချုပ်ဆိုသူများသည် ဟိုတယ်များ၊ villa များ၊ eco villa များ နှင့် အများပြည်သူဆိုင်ရာ နေရာများ ကို ဆောက်လုပ်ရန်အတွက် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (BOT) စာချုပ်ကို တစ်ပြိုက်နက်

ချုပ်ဆိုမည် ဖြစ်ကြောင်း ဝန်ခံကတိပြုလျက် သဘောတူပါသည်။ (နောင်တွင် **BOT စာချုပ်** ဟု ခေါ်ဆိုမည်)

သို့ဖြစ်ပါ၍ အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူတို့သည် အောက်ပါအတိုင်း သဘောတူကြပါသည်။

**၁။ မြေငှားရမ်းခြင်းသဘောတူစာချုပ်၏သက်တမ်းကာလ**

နှစ် ၅၀ (ငါးဆယ်) ကနဦးငှားရမ်းသက်တမ်းကာလသည် ( ) မှ စတင်အကျိုးသက်ရောက်မည်ဖြစ်ပြီး ( ) တွင် ကုန်ဆုံးမည်ဖြစ်သည်။ အဆိုပါ နေ့ရက်နှစ်ရက်စလုံးသည် သဘောတူစာချုပ်၏သက်တမ်းကာလတွင် ပါဝင်သည်။ (နောင်တွင် ကနဦးငှားရမ်းသက်တမ်းကာလ ဟု ခေါ်ဆိုမည်) ဤသဘောတူစာချုပ်၏ကနဦးငှားရမ်းသက်တမ်းကာလ ကုန်ဆုံးသောအခါ အငှားချထားခြင်းခံရသူ၏ဆန္ဒအလျောက် သက်ဆိုင်ရာအစိုးရခွင့်ပြုချက်ဖြင့် တစ်ကြိမ်လျှင် ၁၀ နှစ်စီ နှစ်ကြိမ်သက်တမ်းတိုးကာလအတွက် ဤသဘောတူစာချုပ်ကို သက်တမ်းတိုးနိုင်သည်။ (အားလုံးကို စုပေါင်း၍ စုစုပေါင်းငှားရမ်းသက်တမ်းကာလ ဟု ခေါ်ဆိုမည်) လိုအပ်သော အစိုးရ ခွင့်ပြုချက်များကိုရရှိသောအခါ အငှားချထားခြင်းခံရသူသည် အခြားနည်းအားဖြင့် သဘောတူစာချုပ်၏ သက်တမ်းမကုန်ဆုံးမီ အနည်းဆုံးရက်ပေါင်း ၉၀ (ကိုးဆယ်) ကြိုတင်၍ အငှားချထားသူအား သဘောတူစာချုပ်ကို သက်တမ်းတိုးလိုကြောင်း စာဖြင့်ရေးသားထားသည့် ကြိုတင်အကြောင်းကြားစာကို ပေးပို့ရမည်။

**၂။ မြေငှားရမ်းခ**

(က) နောက်ဆက်တွဲတွင် ပိုမိုအသေးစိတ်ဖော်ပြထားသော မြေကွက် (၃၉.၂၅ ဧကရှိ မြေကွက်အမှတ် ၁၊ ၅၃.၇၀ ဧက ရှိ မြေကွက်အမှတ် ၂ နှင့် ၇.၂၀ ဧကရှိ မြေကွက်အမှတ် ၃) စုစုပေါင်း ၁၀၀.၁၅ ခန့်ဧက အတွက် တစ်ဧကလျှင် တစ်နှစ်စာ မြေငှားရမ်းခမှာ US$ 400.00 (four hundred United States Dollars) ဖြစ်ပါသည်။

**၃။ ငွေပေးချေခြင်း**

(က) ပထမနှစ်အတွက် မြေငှားရမ်းခပေးချေမှု (အပိုဒ် ၂ တွင် ဖော်ပြထားသော) ကို ဤသဘောတူစာချုပ်အား လက်မှတ်ရေးထိုးသည့်နေ့ရက်မှ တစ်နှစ်ပြည့်မြောက်သည့်နေ့ရက်နှင့် အငှားချထားခြင်းခံရသူက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC) ခွင့်ပြုမိန့်ကို ရရှိသည့်နေ့ရက်တို့အနက် နောက်မှ ကျရောက်သည့်နေ့ရက်တွင် ဆောင်ရွက်ရမည်ဖြစ်ပြီး နောင်လာမည့်နှစ်များအတွက် နှစ်စဉ်မြေငှားရမ်းခပေးချေမှုကို မြေငှားရမ်းသည့်နှစ်တစ်နှစ်၏ပထမဆုံးနေ့ရက် မတိုင်မီ ရက်ပေါင်း ၆၀ အတွင်း ဆောင်ရွက်ရမည်။

(ခ) ငွေပေးချေမှု နောက်ကျပါက တစ်နေ့လျှင် US$ 50 (fifty United States Dollars) ကို ဒဏ်ကြေးအဖြစ် အပိုထပ်ဆောင်းပေးဆောင်ရမည်။

(ဂ) ဤသဘောတူစာချုပ်၏အပိုဒ် ၁၂ (ဂ) တွင် ပိုမိုအသေးစိတ်ဖော်ပြထားသည့်အတိုင်း ဤသဘောတူစာချုပ်၏အပိုဒ် ၃ (က) တွင် ဖော်ပြထားသော မြေငှားရမ်းခကို ပြန်လည်တွက်ချက်ရန် လိုအပ်သည့် မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်ပါက အငှားချထားခြင်းခံရသူသည် ငှားရမ်းခကို ပြန်လည်တွက်ချက်စေရန်အတွက် မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်ကြောင်းကို စာဖြင့်ရေးသားလျက် အငှားချထားသူထံသို့ အကြောင်းကြားစာပေးပို့ရမည်။ စာချုပ်ချုပ်ဆိုသူများသည် ဤတွင်ဖော်ပြထားသော စာဖြင့်ရေးသားထားသည့် အကြောင်းကြားစာပေးပို့သောနေ့မှစတင်၍ ရက်ပေါင်း ၃၀ (သုံးဆယ်) ကာလအတွင်း ငှားရမ်းခအား ပြန်လည်တွက်ချက်ခြင်းကို ပြီးစီးအောင် ဆောင်ရွက်ရမည်။

## ၄။ မြေအသုံးချမှုဆိုင်ရာအခကြေးငွေ

အငှားချထားခြင်းခံရသူသည် ပြန်အမ်းမည်မဟုတ်သော မြေအသုံးချမှုပရီမီယံကြေး US$ 75,000 (seventy five thousand only United States dollars) ကို အောက်ပါအတိုင်း နှစ်ရစ်ခွဲ၍ အငှားချထားသူအား (အဆိုပါငွေပေးချေမှုအတွက် အငှားချထားသူက ငွေလက်ခံရရှိကြောင်းပြေစာကို ထုတ်ပေးရမည်) ပေးချေရမည် -

(က) ဤသဘောတူစာချုပ်ကိုလက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း ၃၀ (သုံးဆယ်) အတွင်း US$ 37,500 (thirty seven thousand five hundred only United States Dollars)

(ခ) ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှ ၁ (တစ်) နှစ် ပြည့်မြောက်သည့်ကာလတွင် US$ 37,500 (thirty seven thousand five hundred only United States Dollars)

## ၅။ အငှားချထားသူ၏တာဝန်များ

အငှားချထားသူသည် အောက်ပါအတိုင်း ဆောင်ရွက်ရန် သဘောတူပါသည် -

(က) အငှားချထားခြင်းခံရသူအား အဆိုပါကနဦးငှားရမ်းသက်တမ်းကာလ နှင့် ဤ သဘောတူစာချုပ်၏ အပိုဒ် ၁ အရ သက်တမ်းတိုးထားသော သက်တမ်းတိုးကာလများတစ်လျှောက်လုံး၊ ငှားရမ်းသော မြေကွက်များကို ငှားရမ်းသည့်ကာလတစ်လျှောက်လုံးတွင် အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက်မပါဘဲ မြေကိုပြုပြင်ထိန်းသိမ်းခြင်း၊ ပြန်လည်ပြင်ဆင်ခြင်း၊ ကောင်းမွန်သော အနေအထားဖြင့် ထိန်းသိမ်းထားခြင်းတို့ကို ဆောင်ရွက်ခွင့်ပြုရန်၊

(ခ) အငှားချထားခြင်းခံရသူအား မြေတူးခြင်း၊ မြေကိုတူးဖော်ခြင်း နှင့် မြေဖို့ခြင်း အပါအဝင် ငှားရမ်းသောမြေကွက်များတွင် မြေပေါ်မြေအောက်ပြောင်းလဲခြင်း သို့မဟုတ် ပြင်ဆင်ပြောင်းလဲခြင်းများကို သက်ဆိုင်ရာဝန်ကြီးဌာနများ၏ကြိုတင်ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ခွင့်ပြုရန်၊

(ဂ) အငှားချထားခြင်းခံရသူက ငှားရမ်းသက်တမ်းကာလတစ်လျှောက်လုံးတွင် အငှားချထားသူ သို့မဟုတ် အငှားချထားသူအတွက် တောင်းခံသော သို့မဟုတ် အငှားချထားသူ၏ ယုံကြည်

အပ်နှံခြင်းခံရသူ၏နှောင့်ယှက်ဟန့်တားမှုမရှိဘဲ အဆိုပါငှားရမ်းသောမြေကွက်များကို ငြိမ်းချမ်းစွာ လက်ဝယ်ထားပိုင်ခွင့်၊ သုံးစွဲခွင့် ရရှိအောင် ဆောင်ရွက်ရန်၊

(ဃ) အငှားချထားသူက ငှားရမ်းသောမြေကွက်များကို အငှားချထားသူတစ်ဦးတည်းက ပိုင်ဆိုင်ပါကြောင်း၊ အဆိုပါမြေကွက်များကို ရောင်းချထားခြင်း၊ ပေါင်နှံထားခြင်း၊ အာမခံထားခြင်း မရှိပါကြောင်း နှင့် အဆိုပါမြေကွက်များသည် အပေါင်အနှံကြွေးမြီတာဝန်များကင်းရှင်းပါကြောင်း အာမခံပါသည်။ (သက်ဆိုင်ရာဥပဒေများက ခွင့်ပြုထားသည်မှလွဲ၍၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောတူခွင့်ပြုထားသည်မှ လွဲ၍) အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက၊ အငှားချထားသူက ကုန်ကျစရိတ်ကျခံလျက် ဖြေရှင်းဆောင်ရွက်ရန် တာဝန်ရှိပြီး အငှားချထားသူက သင့်လျော်သော ပူးပေါင်းဆောင်ရွက်မှုဖြင့် ဆောင်ရွက်ရမည်။

(င) အငှားချထားသူက ကနဦးငှားရမ်းသက်တမ်းကာလမကုန်ဆုံးမီ အကြောင်းကြားစာပေးပို့ခြင်းဖြင့် သို့မဟုတ် အခြားနည်းအားဖြင့် ဤသဘောတူစာချုပ်ကို ရပ်စဲပါက အငှားချထားခြင်းခံရသူသည် နစ်နာဆုံးရှုံးမှုများအတွက် တောင်းဆိုပိုင်ခွင့်ရှိသည်။

(စ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများ၏ခွင့်ပြုချက်များ နှင့် အခြားလိုအပ်သော ခွင့်ပြုမိန့်များ နှင့် ခွင့်ပြုချက်များ နှင့် ဤသဘောတူစာချုပ်ကို တရားဝင်ချုပ်ဆိုရန် လိုအပ်သောအစီအစဉ်များအားလုံးကို အထောက်အကူပြုရန်၊ အကူအညီပေးရန် နှင့် ထောက်ပံ့ပေးရန် နှင့်

(ဆ) အငှားချထားခြင်းခံရသူအား လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် လိုအပ်သလို သုံးစွဲမည့် လုံခြုံသောဆက်သွယ်ရေး ကိရိယာများ သို့မဟုတ် အခြားစက်ယန္တရားများ နှင့် စက်ပစ္စည်းကိရိယာများကို ငှားရမ်းသော မြေကွက်များပေါ်သို့ ယူဆောင်လာခြင်း သို့မဟုတ် အဆိုပါမြေကွက်များပေါ်တွင် တပ်ဆင်ခြင်းတို့ကို ဆောင်ရွက်ရန်ခွင့်ပြုကြောင်း အငှားချထားသူက သဘောတူပါသည်။

**၆။ အငှားချထားခြင်းခံရသူ၏တာဝန်များ**

အငှားချထားခြင်းခံရသူက အောက်ပါအတိုင်း သဘောတူပါသည် -

(က) ဤသဘောတူစာချုပ်၏စည်းကမ်းချက်များနှင့်အညီ ငွေပေးချေရန်အချိန်စေ့ရောက်သည့်အချိန်တွင် မြေငှားရမ်းခကို ပေးချေရန်၊ အဆိုပါမြေငှားရမ်းခအား အငှားချထားသူကိုသာ ပေးချေရမည် သို့မဟုတ် အငှားချထားသူက မြေငှားရမ်းခကို ရယူနိုင်သည့် ၎င်းရွေးချယ်သတ်မှတ်ထားသော ဘဏ်ငွေစာရင်းသို့သာ ထည့်သွင်းလျက် ပေးချေရမည်။

(ခ) စုံစမ်းစစ်ဆေးခြင်းများပြုလုပ်ရန်အတွက် အငှားချထားခြင်းခံရသူ နှင့် အငှားချထားခြင်းခံရသူ၏ ကိုယ်စားလှယ်တစ်ဦးက သဘောတူခွင့်ပြုသောအချိန်တွင် အငှားချထားသူ သို့မဟုတ် ၎င်းခန့်အပ်

ထားသော ကိုယ်စားလှယ်များကို စာဖြင့်ရေးသားထားသည့်အထောက်အထားဖြင့် ငှားရမ်းသော မြေကွက်များပေါ် သို့ဝင်ရောက်ခွင့်ပြုရန်၊ သို့ရာတွင် အဆိုပါလုပ်ပိုင်ခွင့်ကိုကျင့်သုံးသောအခါ အငှားချထားသူသည် အငှားချထားခြင်းခံရသူအား လိုအပ်သည်ထက်ပို၍ အနှောင့်အယှက် ဖြစ်စေရန် ဆောင်ရွက်ခြင်းမှ ရှောင်ကြဉ်ရမည်။

(ဂ) ဤသဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများကို ဆောင်ရွက်ရန် နှင့် လိုက်နာဆောင်ရွက်ရန် နှင့် ဤသဘောတူစာချုပ်ပါစည်းမျဉ်းစည်းကမ်းများကို မဆောင်ရွက်ကြောင်း သို့မဟုတ် လိုက်နာ ဆောင်ရွက်ရန် ပျက်ကွက်ကြောင်း အငှားချထားသူထံမှ ပေးပို့သော အကြောင်းကြားစာကို ရရှိ ပါက အဆိုပါအကြောင်းကြားစာကို လက်ခံရရှိပြီးနောက် ရက်ပေါင်း ၉၀ (ကိုးဆယ်) အတွင်း ပြန် လည် ပြင်ဆင်ဆောင်ရွက်ရန်၊ အငှားချထားသူသည် ဤစာချုပ်ပါအပိုဒ် ၁၃ နှင့်အညီ ဤကိစ္စကို ခုံသမာဓိဖြေရှင်းရေးအဖွဲ့သို့ လွတ်လပ်စွာ တင်ပြနိုင်သည်။

(ဃ) ဤသဘောတူစာချုပ်သက်တမ်းကုန်ဆုံးချိန်တွင် ငှားရမ်းသောမြေကွက်များအားလုံးကို လူနေထိုင် ခြင်းမရှိသည့်အနေအထား၊ ကောင်းမွန်သော၊ သင့်လျော်စွာ ပြင်ဆင်ထားသည့်အနေအထားဖြင့် အငှားချထားသူအား ငြိမ်းချမ်းစွာ ပြန်လည်ပေးအပ်ရမည်။

## ၇။ ငှားရမ်းထားသောပစ္စည်းများကို ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း သို့မဟုတ် ထပ်ဆင့်လွှဲပြောင်း ပေးအပ်ခြင်း

(က) အငှားချထားခြင်းခံရသူသည် စုစုပေါင်းငှားရမ်းသက်တမ်းကာလအတွင်း ငှားရမ်းထားသောပစ္စည်း များကို ပုံမှန်ပြုပြင်ထိန်းသိမ်းခြင်း နှင့် သင့်လျော်သောထိန်းသိမ်းစောင့်ရှောက်မှုပြုလုပ်ခြင်းတို့ကို ဆောင်ရွက်ရမည်။ အငှားချထားခြင်းခံရသူသည် ကနဦးနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ပြီးနောက် ဟိုတယ်များ၊ villa များ၊ eco villa များ နှင့် အများပြည်သူဆိုင်ရာနေရာများကို တိုးချဲ့ ဆောက် လုပ်ရန်အတွက် အငှားချထားသူ၏စာဖြင့် ရေးသားထားသော ကြိုတင်သဘောတူခွင့်ပြုချက်ကို ရယူရမည်။

(ခ) စုစုပေါင်းငှားရမ်းသက်တမ်းကာလတစ်ခုလုံး ကုန်ဆုံးသောအခါ သို့မဟုတ် ငှားရမ်းသက်တမ်း ကာလအတွင်းစာချုပ်ရပ်စဲသောအခါ အငှားချထားခြင်းခံရသူသည် အငှားချထားသူထံမှ မည်သည့် အဖိုးစားနားမျှ တောင်းဆိုခြင်းမရှိဘဲ ၃ (သုံး) လအတွင်း ငှားရမ်းထားသောမြေ နှင့် အဆောက် အဦများအပါအဝင် မရွှေ့ပြောင်းနိုင်သောပစ္စည်းများကို ကောင်းမွန်သောအနေအထားဖြင့်၊ မြေကြီး ပျက်စီးမှုတစ်စုံတစ်ရာရှိပါက ပြန်လည်ပြင်ဆင်ထားသည့် အနေအထားဖြင့် ပြန်လည် လွှဲပြောင်း ပေးအပ်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် ငှားရမ်းသက်တမ်းကာလကုန်ဆုံးသည့်နေ့ရက်မှ ၃ (သုံး) လအတွင်း မိမိ၏စရိတ်စကဖြင့် ဖယ်ရှားရမည် ဖြစ်သည့် သို့မဟုတ် ထုခွဲရောင်းချရမည်ဖြစ်သည့် ငှားရမ်း ထားသောမြေပေါ်ရှိ ရွှေ့ပြောင်းနိုင်သောပစ္စည်းများအားလုံးကို အငှားချထားသူက အငှားချ

ထားခြင်းခံရသူ၏ အဆိုပါပစ္စည်းများကို ဖယ်ရှားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ ဆောင်ရွက်ပြီးစီးသည့် နေ့ရက်အထိ မြေငှားရမ်းခ တောင်းခံပိုင်ခွင့် နှင့် အငှားချထားခြင်းခံရသူကြောင့် ငှားရမ်းသည့်မြေပေါ်တွင် ပေါ်ပေါက်သောအပျက်အစီးများအတွက် အငှားချထားသူ၏ တောင်းဆိုပိုင်ခွင့်ကို မထိခိုက်စေဘဲ လက်ဝယ် ထိန်းသိမ်းပိုင်ခွင့်ရှိစေရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ကိုရပ်စဲသောအခါ ဟိုတယ်များကို ဆက်လက်စီမံခန့်ခွဲလိုလျှင် နှင့် ဆက်လက်လုပ်ငန်းလည်ပတ်ဆောင်ရွက်လိုလျှင် စည်းမျဉ်းစည်းကမ်းအသစ်များ ပါဝင်သော စီမံခန့်ခွဲမှုဆိုင်ရာသဘောတူစာချုပ်ကို ညှိနှိုင်းဆောင်ရွက်နိုင်ပြီး ဤသဘောတူစာချုပ် သက်တမ်းကာလမကုန်ဆုံးမီ ၆ (ခြောက်) လ အတွင်း အပြီးသတ် ဆောင်ရွက်နိုင်သည်။

(င) အငှားချထားခြင်းခံရသူသည် လုပ်ငန်းချင်းပူးပေါင်းဆောင်ရွက်သည့်ကုမ္ပဏီတစ်ခု (affiliated legal entity) (အငှားချထားခြင်းခံရသူ၏ အစုရှယ်ယာရှင်အချို့သည် အဆိုပါကုမ္ပဏီ၏ အစုရှယ်ယာရှင်များအဖြစ် ပါဝင်ပတ်သက်နေသော ကုမ္ပဏီ (နောင်တွင် လုပ်ငန်းချင်းပူးပေါင်း ဆောင်ရွက်သည့်ကုမ္ပဏီ ဟု ခေါ်ဆိုမည်) ) ကို ဤစာချုပ် တွင် ဖော်ပြထားသောရည်ရွယ်ချက်များအတွက် (ဟိုတယ်များ၊ villa များ၊ eco villa များ နှင့် အများပြည်သူဆိုင်ရာနေရာများအတွက် မြေသုံးစွဲခြင်းအတွက်) မြေအားထပ်ဆင့်ငှားရမ်းရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ကြိုတင်ခွင့်ပြုချက်ကို ရရှိထားပါက အငှားချထားသူသည် ငှားရမ်းသောမြေကွက်များ၏အစိတ်အပိုင်းတစ်ခုကို ထပ်ဆင့်ငှားရမ်းနိုင်သည့် အငှားချထားခြင်းခံရသူ၏အခွင့်အရေးကို အသိအမှတ်ပြုပါသည်။ သို့ရာတွင် အဆိုပါထပ်ဆင့်အငှားချထားခြင်းခံရသူများသည် ဤသဘောတူစာချုပ်၏ စည်းမျဉ်းစည်းကမ်းများအားလုံးကို အသိအမှတ်ပြုကာ လိုက်နာဆောင်ရွက်ရမည်။ အဆိုပါထပ်ဆင့်ငှားရမ်းခြင်းအတွက် အငှားချထားခြင်းခံရသူ၏တောင်းဆိုချက်ကို အငှားချထားသူက ကျိုးကြောင်း ဆီလျော်မှုမရှိဘဲ ပေးရန်ငြင်းဆန်ခြင်းမပြုပါဟု သဘောတူပါသည်။

**၈။ မြေပေါ်သို့ပြန်လည်ဝင်ရောက်ခွင့်များ**

အငှားချထားခြင်းခံရသူသည် ဤမြေငှားရမ်းခြင်း၏စည်းမျဉ်းစည်းကမ်းများကို ဆောင်ရွက်ရန် သို့မဟုတ် လိုက်နာဆောင်ရွက်ရန် သိသိသာသာ ပျက်ကွက်ပါက၊ အဆိုပါပျက်ကွက်မှုကို အငှားချထားသူမှ စာဖြင့်ရေးသားလျက်အကြောင်းကြားစာပေးပို့ပြီးနောက် ရက်ပေါင်း ၆၀ (ခြောက်ဆယ်) အတွင်း အဆိုပါဆောင်ရွက်ရန် ပျက်ကွက်မှု သို့မဟုတ် လိုက်နာဆောင်ရွက်ရန် ပျက်ကွက်မှုကို ပြန်လည်ပြင်ဆင်ရန် ပျက်ကွက်ပါက၊ အငှားချထားသူသည် မြေပေါ်သို့ လွတ်လပ်စွာ ပြန်လည်ဝင်ရောက်ခွင့်ရှိပြီး ငှားရမ်းထားသောမြေ နှင့် ငှားရမ်းသောမြေကွက်တစ်ခုလုံးကို ပြန်လည် သိမ်းယူခွင့်ရှိသည်။ အဆိုပါဖြစ်ရပ်ပေါ်ပေါက်ပါက BOT စာချုပ်သည်လည်း ရပ်စဲရမည်။ သို့ရာတွင် အဆိုပါမြေပေါ်သို့ပြန်လည်ဝင်ရောက်ခွင့်သည် အငှားချထားခြင်းခံရသူထံမှ မြေငှားရမ်းခ သို့မဟုတ် အပျက်အစီးများအတွက် လျော်ကြေးတောင်းဆိုရန် အငှားချထားသူ၏ ဆောင်ရွက်ခွင့် တစ်စုံတစ်ရာကို ထိခိုက်ခြင်းမရှိစေရ။

## လန့်ဝိအဏ္ဏဝါအမျိုးသားဥယျာဉ်

(က) ဝါးအလယ်ကျွန်း၏ နယ်နိမိတ်သည် မြောက်လက်တ္တီတွဒ် ၁၀° ၅၁.၁၃၂၁' ၊ အရှေ့လောင်ဂျီတွဒ် ၉၈° ၀၃.၇၇၄' အတွင်း တည်ရှိပါသည်။

(ခ) ဝါးအလယ်ကျွန်း၏ ဧရိယာမှာ (၃၉၃၄) ဧကဖြစ်ပါသည်။

## လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်၏ တည်နေရာနှင့် နယ်နိမိတ်ပြမြေပုံ




ဝါးအလယ်ကျွန်းသည် သစ်တောဦးစီးဌာနမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ် ဧရိယာတွင် ပါဝင်ကြောင်း အတည်ပြုပါသည်-

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန

## လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်အတွင်းရှိ ဝါးအလယ်ကျွန်း၏ တည်နေရာပြမြေပုံ




ဝါးအလယ်ကျွန်းသည် သစ်တောဦးစီးဌာနမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ် ဧရိယာတွင် ပါဝင်ကြောင်း အတည်ပြုပါသည်-

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန

## လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်အတွင်းရှိ ဝါးအလယ်ကျွန်း၏ တည်နေရာပြမြေပုံ




ဝါးအလယ်ကျွန်းသည် သစ်တောဦးစီးဌာနမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ် ဧရိယာတွင် ပါဝင်ကြောင်း အတည်ပြုပါသည်-

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန

## လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်၏ တည်နေရာနှင့် နယ်နိမိတ်ပြမြေပုံ




**ဝါးအလယ်ကျွန်းသည် သစ်တောဦးစီးဌာနမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ် ဧရိယာတွင် ပါဝင်ကြောင်း အတည်ပြုပါသည်-**

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
**သစ်တောဦးစီးဌာန**
သဘာဝဝန်းကျင်နှင့်သားငှက်တိရစ္ဆာန်ထိန်းသိမ်းရေးဌာန

**စာအမှတ်၊** ဥယျာဉ်-ငွေ/ ဝါးအလယ် /၅၆၈၂ / ၂၀၁၅
**ရက်စွဲ** ၊ ၂၀၁၅ ခုနှစ် ၊ စက်တင်ဘာလ ၁၇ ရက်

သို့

Mr.Christopher Wringt Kingsley
BENCHMADE ASIA LTD

အကြောင်းအရာ ။ **ဝါးအလယ်ကျွန်းမြေပုံပေးပို့ခြင်း**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ တနင်္သာရီတိုင်းဒေသကြီး ၊ ဘုတ်ပြင်းမြို့နယ်၊ လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်အတွင်းရှိ ဝါးအလယ်ကျွန်းပေါ်တွင် သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်းတည်ဆောက်ရန် မြေ(၁၀၀.၁၅)ဧက ငှားရမ်းခွင့် လုပ်ငန်းအဆိုပြုလွှာတင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စိစစ်ချက်အရ BENCHMADE ASIA LTD မှ ပြန်လည်တင်ပြရန် လိုအပ်သည့် ဝါးအလယ်ကျွန်းမြေပုံ(၂)ပုံအား ဤစာနှင့်အတူပူးတွဲပေးပို့ပါသည်။

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ




(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန

## DISTANCES BETWEEN POINTS - AREA 1A

| FROM | TO | DIRECTION | DISTANCE |
|---|---|---|---|
| 83 | 85 | 95.11.40 | 22.10 |
| 85 | 86 | 77.00.19 | 13.3 |
| 86 | 87 | 90.00.00 | 20.0 |
| 87 | 88 | 94.23.55 | 26.1 |
| 88 | 90 | 94.53.57 | 35.1 |
| 90 | 91 | 81.52.12 | 21.2 |
| 91 | 505 | 112.41.35 | 83.9 |
| 505 | 1048 | 97.22.59 | 176.0 |
| 1048 | 1047 | 111.48.05 | 43.1 |
| 1047 | 38 | 117.35.17 | 125.2 |
| 38 | 1036 | 151.55.39 | 17.0 |
| 1036 | 37 | 112.22.48 | 18.4 |
| 37 | 1035 | 144.27.44 | 17.2 |
| 1035 | 30 | 106.41.57 | 10.4 |
| 30 | 31 | 123.01.26 | 23.9 |
| 31 | 32 | 136.50.51 | 21.9 |
| 32 | 33 | 124.49.28 | 28.0 |
| 33 | 34 | 130.21.52 | 26.2 |
| 34 | 35 | 123.41.24 | 21.6 |
| 35 | 36 | 131.38.01 | 12.0 |
| 36 | 1032 | 150.15.18 | 8.1 |
| 1032 | 1010 | 105.56.43 | 7.3 |
| 1010 | 1031 | 192.10.17 | 52.2 |
| 1031 | 466 | 195.15.18 | 34.2 |
| 466 | 494 | 49.31.16 | 249.4 |
| 494 | 493 | 313.41.07 | 197.4 |
| 493 | 502 | 301.56.56 | 141.3 |
| 502 | 501 | 266.17.45 | 170.1 |
| 501 | 67 | 281.24.48 | 282.9 |
| 67 | 68 | 258.41.24 | 15.3 |
| 68 | 69 | 299.21.28 | 18.4 |
| 69 | 70 | 338.11.55 | 16.2 |
| 70 | 72 | 271.54.33 | 30.0 |
| 72 | 74 | 220.54.52 | 19.8 |
| 74 | 79 | 246.28.04 | 67.6 |
| 79 | 81 | 219.17.22 | 28.4 |
| 81 | 83 | 181.47.24 | 32.0 |

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန



## COORDINATES - AREA 1A

| PNT# | NORTH(Y) | EAST(X) |
|---|---|---|
| 83 | 1200289 | 397215 |
| 85 | 1200287 | 397237 |
| 86 | 1200290 | 397250 |
| 87 | 1200290 | 397270 |
| 88 | 1200288 | 397296 |
| 90 | 1200285 | 397331 |
| 91 | 1200288 | 397352 |
| 505 | 1200256 | 397429 |
| 1048 | 1200233 | 397604 |
| 1047 | 1200217 | 397644 |
| 38 | 1200159 | 397755 |
| 1036 | 1200144 | 397763 |
| 37 | 1200137 | 397780 |
| 1035 | 1200123 | 397790 |
| 30 | 1200120 | 397800 |
| 31 | 1200107 | 397820 |
| 32 | 1200091 | 397835 |
| 33 | 1200075 | 397858 |
| 34 | 1200058 | 397878 |
| 35 | 1200046 | 397896 |
| 36 | 1200038 | 397905 |
| 1032 | 1200031 | 397909 |
| 1010 | 1200029 | 397916 |
| 1031 | 1199978 | 397905 |
| 466 | 1199945 | 397896 |
| 494 | 1200107 | 398086 |
| 493 | 1200243 | 397943 |
| 502 | 1200318 | 397823 |
| 501 | 1200307 | 397653 |
| 67 | 1200363 | 397376 |
| 68 | 1200360 | 397361 |
| 69 | 1200369 | 397345 |
| 70 | 1200384 | 397339 |
| 72 | 1200385 | 397309 |
| 74 | 1200370 | 397296 |
| 79 | 1200343 | 397234 |
| 81 | 1200321 | 397216 |

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန

**DISTANCES BETWEEN POINTS - AREA1B**

| FROM | TO | DIRECTION | DISTANCE |
|---|---|---|---|
| 449 | 448 | 124.06.52 | 37.40 |
| 448 | 447 | 95.02.33 | 34.1 |
| 447 | 446 | 18.26.06 | 31.6 |
| 446 | 445 | 21.48.05 | 43.1 |
| 445 | 444 | 352.34.07 | 46.4 |
| 444 | 105 | 357.50.20 | 53 |
| 105 | 104 | 37.34.07 | 16.4 |
| 104 | 103 | 45.00.00 | 26.9 |
| 103 | 102 | 64.17.24 | 30 |
| 102 | 101 | 49.23.55 | 18.4 |
| 101 | 100 | 65.13.29 | 14.3 |
| 100 | 99 | 64.39.14 | 21 |
| 99 | 98 | 57.15.53 | 16.6 |
| 98 | 126 | 62.31.32 | 56.4 |
| 126 | 127 | 68.11.55 | 10.8 |
| 127 | 128 | 56.18.36 | 21.6 |
| 128 | 1074 | 54.42.48 | 79.6 |
| 1074 | 462 | 276.56.26 | 163.4 |
| 462 | 463 | 253.32.04 | 143.7 |
| 463 | 464 | 222.42.34 | 70.8 |
| 464 | 449 | 178.34.26 | 241.1 |

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန



**COORDINATES – AREA 1B**

| PNT# | NORTH(Y) | EAST(X) |
|---|---|---|
| 449 | 1200001 | 396789 |
| 448 | 1199980 | 396820 |
| 447 | 1199977 | 396854 |
| 446 | 1200007 | 396864 |
| 445 | 1200047 | 396880 |
| 444 | 1200093 | 396874 |
| 105 | 1200146 | 396872 |
| 104 | 1200159 | 396882 |
| 103 | 1200178 | 396901 |
| 102 | 1200191 | 396928 |
| 101 | 1200203 | 396942 |
| 100 | 1200209 | 396955 |
| 99 | 1200218 | 396974 |
| 98 | 1200227 | 396988 |
| 126 | 1200253 | 397038 |
| 127 | 1200257 | 397048 |
| 128 | 1200269 | 397066 |
| 1074 | 1200315 | 397131 |
| 462 | 1200335 | 396969 |
| 463 | 1200294 | 396831 |
| 464 | 1200242 | 396783 |

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန




## Area 2: Co-ordinates

| PNT# | NORTH(Y) | EAST(X) |
|---|---|---|
| 313 | 1199260 | 398485 |
| 315 | 1199266 | 398511 |
| 345 | 1199215 | 398597 |
| 346 | 1199197 | 398608 |
| 348 | 1199162 | 398642 |
| 367 | 1199074 | 398703 |
| 373 | 1199028 | 398730 |
| 442 | 1198896 | 398819 |
| 425 | 1198866 | 398833 |
| 426 | 1198835 | 398831 |
| 427 | 1198832 | 398846 |
| 428 | 1198806 | 398841 |
| 429 | 1198786 | 398842 |
| 430 | 1198785 | 398833 |
| 431 | 1198763 | 398837 |
| 432 | 1198768 | 398844 |
| 541 | 1198748 | 398863 |
| 540 | 1198720 | 398855 |
| 539 | 1198697 | 398867 |
| 538 | 1198714 | 398906 |
| 537 | 1198619 | 398943 |
| 514 | 1198453 | 399172 |
| 413 | 1198600 | 399214 |
| 404 | 1198758 | 399297 |
| 438 | 1199013 | 398920 |
| 357 | 1199161 | 398773 |
| 495 | 1199400 | 398630 |
| 436 | 1199438 | 398543 |
| 435 | 1199449 | 398512 |
| 434 | 1199429 | 398485 |
| 327 | 1199401 | 398483 |
| 329 | 1199368 | 398470 |
| 316 | 1199294 | 398496 |

## Area 2: Dimensions

| FROM | TO | DIRECTION | DISTANCE |
|---|---|---|---|
| 313 | 315 | 77.00.19 | 26.7 |
| 315 | 345 | 120.40.06 | 100.0 |
| 345 | 346 | 148.34.14 | 21.1 |
| 346 | 348 | 135.49.49 | 48.8 |
| 348 | 367 | 145.16.16 | 107.1 |
| 367 | 373 | 149.35.20 | 53.3 |
| 373 | 442 | 145.55.48 | 159.3 |
| 442 | 425 | 155.23.21 | 33.1 |
| 425 | 426 | 183.41.29 | 31.1 |
| 426 | 427 | 101.18.36 | 15.3 |
| 427 | 428 | 190.53.08 | 26.5 |
| 428 | 429 | 177.08.15 | 20.0 |
| 429 | 430 | 263.39.35 | 9.1 |
| 430 | 431 | 169.41.43 | 22.4 |
| 431 | 432 | 54.27.44 | 8.6 |
| 432 | 541 | 136.28.08 | 27.6 |
| 541 | 540 | 195.56.43 | 29.1 |
| 540 | 539 | 152.26.50 | 25.9 |
| 539 | 538 | 66.26.52 | 42.5 |
| 538 | 537 | 158.43.13 | 102.0 |
| 537 | 514 | 125.56.17 | 282.8 |
| 514 | 413 | 15.56.43 | 152.9 |
| 413 | 404 | 27.42.49 | 178.5 |
| 404 | 438 | 304.03.48 | 455.2 |
| 438 | 357 | 315.13.08 | 208.6 |
| 357 | 495 | 329.06.24 | 278.5 |
| 436 | 435 | 289.33.39 | 33.0 |
| 435 | 434 | 233.50.02 | 34.1 |
| 434 | 327 | 183.22.12 | 28.3 |
| 327 | 329 | 201.30.05 | 35.5 |
| 329 | 316 | 160.38.28 | 78.4 |
| 316 | 313 | 197.55.41 | 35.7 |

DISTANCES BETWEEN POINTS – AREA 2

| FROM | TO | DIRECTION | DISTANCE |
|---|---|---|---|
| 313 | 315 | 77.00.19 | 26.70 |
| 315 | 345 | 120.40.08 | 100.0 |
| 345 | 346 | 148.34.14 | 21.1 |
| 346 | 348 | 135.49.49 | 48.8 |
| 348 | 367 | 145.16.16 | 107.1 |
| 367 | 373 | 149.35.20 | 53.3 |
| 373 | 442 | 145.55.48 | 159.3 |
| 442 | 425 | 155.23.21 | 33.1 |
| 425 | 426 | 183.41.29 | 31.1 |
| 426 | 427 | 101.18.36 | 15.3 |
| 427 | 428 | 190.53.08 | 26.5 |
| 428 | 429 | 177.08.15 | 20.0 |
| 429 | 430 | 263.39.35 | 9.1 |
| 430 | 431 | 169.41.43 | 22.4 |
| 431 | 432 | 54.27.44 | 8.6 |
| 432 | 541 | 136.28.08 | 27.6 |
| 541 | 540 | 195.56.43 | 29.1 |
| 540 | 539 | 152.26.50 | 25.9 |
| 539 | 538 | 66.26.52 | 42.5 |
| 538 | 537 | 158.43.13 | 102.0 |
| 537 | 514 | 125.56.17 | 282.8 |
| 514 | 413 | 15.56.43 | 152.9 |
| 413 | 404 | 27.42.49 | 178.5 |
| 404 | 438 | 304.03.48 | 455.2 |
| 438 | 357 | 315.13.08 | 208.6 |
| 357 | 495 | 329.06.24 | 278.5 |
| 436 | 435 | 289.33.39 | 33.0 |
| 435 | 434 | 233.50.02 | 34.1 |
| 434 | 327 | 183.22.12 | 28.3 |
| 327 | 329 | 201.30.05 | 35.5 |
| 329 | 316 | 160.38.28 | 78.4 |
| 316 | 313 | 197.55.41 | 35.7 |

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန



COORDINATES – AREA 2

| PNT# | NORTH(Y) | EAST(X) |
|---|---|---|
| 313 | 1199260 | 398485 |
| 315 | 1199266 | 398511 |
| 345 | 1199215 | 398597 |
| 346 | 1199197 | 398608 |
| 348 | 1199162 | 398642 |
| 367 | 1199074 | 398703 |
| 373 | 1199028 | 398730 |
| 442 | 1198896 | 398819 |
| 425 | 1198866 | 398833 |
| 426 | 1198835 | 398831 |
| 427 | 1198832 | 398846 |
| 428 | 1198806 | 398841 |
| 429 | 1198786 | 398842 |
| 430 | 1198785 | 398833 |
| 431 | 1198763 | 398837 |
| 432 | 1198768 | 398844 |
| 541 | 1198748 | 398863 |
| 540 | 1198720 | 398855 |
| 539 | 1198697 | 398867 |
| 538 | 1198714 | 398906 |
| 537 | 1198619 | 398943 |
| 514 | 1198453 | 399172 |
| 413 | 1198600 | 399214 |
| 404 | 1198758 | 399297 |
| 438 | 1199013 | 398920 |
| 357 | 1199161 | 398773 |
| 495 | 1199400 | 398630 |
| 436 | 1199438 | 398543 |
| 435 | 1199449 | 398512 |
| 434 | 1199429 | 398485 |
| 327 | 1199401 | 398483 |
| 329 | 1199368 | 398470 |
| 316 | 1199294 | 398496 |

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန



Andaman Sea
261
264
266
256
250
251
31.0
30.0
267
257
253
29,122 SQ M
265
252
10.0
258
12.0
263
Ordinary High Water Mark
260
Andaman Sea
Water Mark
9.0
259
243
7.0
254
262
0
40
80
120
160
200
Scale in Metres
255
249
248
247
246
245
Ordinary High Water Mark
244
4.0
1.0
1.0
6.0
9.0
7.0
9.0
268
14.0
18.0
Area 3
24.0
24.0
22.0
25.0
242
241
a-Ale Island
Legend
UTM grid WGS-84 datum
obtained by handheld GPS
GPS measurements by C. Kingsle
18 Novemberf 2014
(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန

## DISTANCES BETWEEN POINTS – AREA 3

| FROM | TO | DIRECTION | DISTANCE |
|---|---|---|---|
| 242 | 243 | 356.11.01 | 164.422 |
| 243 | 254 | 122.23.08 | 26.364 |
| 254 | 259 | 34.42.57 | 28.632 |
| 259 | 260 | 12.40.16 | 25.732 |
| 260 | 258 | 347.22.31 | 18.651 |
| 258 | 252 | 320.29.55 | 32.536 |
| 252 | 253 | 16.07.58 | 24.827 |
| 253 | 257 | 52.31.36 | 18.57 |
| 257 | 251 | 315.28.08 | 30.836 |
| 251 | 250 | 09.37.12 | 14.943 |
| 250 | 256 | 34.02.25 | 26.889 |
| 256 | 261 | 19.02.33 | 28.812 |
| 261 | 264 | 99.23.46 | 40.366 |
| 264 | 266 | 117.51.21 | 31.566 |
| 266 | 267 | 162.19.23 | 58.886 |
| 267 | 265 | 197.42.57 | 40.19 |
| 265 | 263 | 220.46.58 | 57.608 |
| 263 | 262 | 212.31.01 | 64.082 |
| 262 | 255 | 188.48.23 | 22.53 |
| 255 | 249 | 216.33.10 | 22.64 |
| 249 | 248 | 135.00.03 | 23.06 |
| 248 | 247 | 109.10.42 | 15.272 |
| 247 | 246 | 95.52.38 | 21.436 |
| 246 | 245 | 105.07.23 | 24.037 |
| 245 | 244 | 115.43.50 | 28.892 |
| 244 | 268 | 135.32.09 | 23.726 |
| 268 | 241 | 184.19.03 | 60.384 |
| 241 | 242 | 274.19.02 | 133.569 |

AREA= 29,122 SQR M

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန



## COORDINATES - AREA 3

| PNT# | NORTH(Y) | EAST(X) |
|---|---|---|
| 241 | 1201920.727 | 399415 |
| 242 | 1201930.782 | 399282 |
| 243 | 1202094.839 | 399271 |
| 244 | 1201997.873 | 399403 |
| 245 | 1202010.416 | 399377 |
| 246 | 1202016.687 | 399354 |
| 247 | 1202018.882 | 399332 |
| 248 | 1202023.899 | 399318 |
| 249 | 1202040.205 | 399302 |
| 250 | 1202244.525 | 399293 |
| 251 | 1202229.792 | 399290 |
| 252 | 1202172.663 | 399290 |
| 253 | 1202196.512 | 399297 |
| 254 | 1202080.718 | 399293 |
| 255 | 1202058.392 | 399315 |
| 256 | 1202266.806 | 399308 |
| 257 | 1202207.81 | 399312 |
| 258 | 1202147.558 | 399311 |
| 259 | 1202104.253 | 399309 |
| 260 | 1202129.358 | 399315 |
| 261 | 1202294.041 | 399317 |
| 262 | 1202080.656 | 399319 |
| 263 | 1202134.692 | 399353 |
| 264 | 1202287.451 | 399357 |
| 265 | 1202178.312 | 399391 |
| 266 | 1202272.702 | 399385 |
| 267 | 202216.596 | 399403 |
| 268 | 1201980.94 | 399419 |

(ဝင်းနိုင်သော်)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန

**BESSEMER TRUST**
101 CALIFORNIA STREET
SUITE 2500
SAN FRANCISCO, CA 94111

ALLYSON PERACCA
VICE PRESIDENT

415-291-1810
Fax: 415-291-1807
PERACCA@BESSEMER.COM

February 20, 2015

Mr. & Mrs. Christopher Kingsley
14 Makepeace Road
Singapore 228639

Dear Mr. & Mrs. Kingsley,

Per your request, please find below a summary of assets held in accounts at Bessemer Trust of which you have 100% ownership or beneficial interest which you control directly or indirectly.

**Christopher & Farina Kingsley Bessemer Trust Balance Sheet**

| Entity | | Asset Value as of 2/19/15 |
|---|---|---|
| Farina Kingsley Revocable Trust [1] | $ | 2,439,704 |
| Christopher Kingsley Revocable Trust [1] | $ | 2,761,459 |
| Christopher Kingsley SEP IRA | $ | 58,703 |
| Christopher Kingsley ROTH IRAs | $ | 939,820 |
| Farina Kingsley 2012 Trust DTD 12/24/12 [1,2] | $ | 4,999,900 |
| Christopher Kingsley 2012 Trust DTD 12/24/12 [1,3] | $ | 5,122,200 |
| | $ | 16,321,786 |

[1] Asset values does not include notes receivable or payable.
[2] F. Kingsley 2012 Trust dtd 12/24/12 owns 100% of the F.K. BHI Trust LLC & the F.K. Tiburon Trust LLC.
[3] C. Kingsley 2012 Trust dtd 12/24/12 owns 100% the Tiburon LLC & the PS Property LLC.

Note:

Farina Kingsley is the Sole Member and Manager of both the F.K. BHI Trust LLC and the F.K. Tiburon Trust LLC.
LLC accounts are held 100% by the Farina Kingsley 2012 Delaware Trust DTD 12/24/12.
Farina Kingsley is the Grantor of this 2012 Trust and is the Investment Direction Advisor.

Christopher Kingsley is the Sole Member and Manager of both the PS Property LLC and the Tiburon LLC.
LLC accounts are held 100% by the Christopher Kingsley 2012 Delaware Trust DTD 12/24/12.
Christopher Kingsley is the Grantor of this 2012 Trust and is the Investment Direction Advisor.

Best,

**BESSEMER TRUST**
101 CALIFORNIA STREET
SUITE 2500
SAN FRANCISCO, CA 94111

ALLYSON PERACCA
VICE PRESIDENT

415-291-1810
Fax: 415-291-1807
PERACCA@BESSEMER.COM

February 20, 2015

Mr. & Mrs. Christopher Kingsley
14 Makepeace Road
Singapore 228639

Dear Mr. & Mrs. Kingsley,

Per your request, please find below a summary of assets held in accounts at Bessemer Trust of which you have 100% ownership or beneficial interest which you control directly or indirectly.

**Christopher & Farina Kingsley Bessemer Trust Balance Sheet**

| Entity | Asset Value as of 2/19/15 | |
|---|---|---|
| Farina Kingsley Revocable Trust [1] | $ | 2,439,704 |
| Christopher Kingsley Revocable Trust [1] | $ | 2,761,459 |
| Christopher Kingsley SEP IRA | $ | 58,703 |
| Christopher Kingsley ROTH IRAs | $ | 939,820 |
| Farina Kingsley 2012 Trust DTD 12/24/12 [1,2] | $ | 4,999,900 |
| Christopher Kingsley 2012 Trust DTD 12/24/12 [1,3] | $ | 5,122,200 |
| | $ | 16,321,786 |

[1] Asset values does not include notes receivable or payable.
[2] F. Kingsley 2012 Trust dtd 12/24/12 owns 100% of the F.K. BHI Trust LLC & the F.K. Tiburon Trust LLC.
[3] C. Kingsley 2012 Trust dtd 12/24/12 owns 100% the Tiburon LLC & the PS Property LLC.

Note:

Farina Kingsley is the Sole Member and Manager of both the F.K. BHI Trust LLC and the F.K. Tiburon Trust LLC.
LLC accounts are held 100% by the Farina Kingsley 2012 Delaware Trust DTD 12/24/12.
Farina Kingsley is the Grantor of this 2012 Trust and is the Investment Direction Advisor.

Christopher Kingsley is the Sole Member and Manager of both the PS Property LLC and the Tiburon LLC.
LLC accounts are held 100% by the Christopher Kingsley 2012 Delaware Trust DTD 12/24/12.
Christopher Kingsley is the Grantor of this 2012 Trust and is the Investment Direction Advisor.

Best,

Allyson P

Appendix. 10

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# ဘန့်(ရှ်)မိတ်အေးရှား (မြန်မာ) ~~ကုမ္ပဏီ~~ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memoradum Of Association

*AND*

# Articles Of Association

*OF*

# BENCHMADE ASIA (MYANMAR) ~~COMPANY~~ LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

**အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ**

# ဘန့်(ရှ်)မိတ်အေးရှား(မြန်မာ) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖❖

၁။ **ကုမ္ပဏီ၏အမည်သည်** ဘန့်(ရှ်)မိတ်အေးရှား(မြန်မာ) **ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။**

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ **အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။**

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် အမေရိကန်ဒေါ်လာ ၁၀,၀၀၀,၀၀၀ /-( ကျပ် ဒေါ်လာ တစ်ဆယ်သန်း တိတိ ) ဖြစ်၍ငွေကျပ်ဒေါ်လာ ၁၀၀ /-( ကျပ် ဒေါ်လာ တစ်ရာ တိတိ ) တန် အစုရှယ်ယာပေါင်း ၃၀၀,၀၀၀ ) ခွဲထားပါသည်။ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေ အထွေထွေပဋ္ဌာန်းချက်များနှင့်အညီ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၆။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

၇။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်း များကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထား ရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | BENCHMADE ASIA PTE. LTD<br>14, Makepeace Road, Singapore (228639) Incorporated in Singapore<br>Represented by<br>Mr. Christopher Wright Kingsley<br>14, Makepeace Road, Singapore (228639) | Amercian<br>PPNo.488854235 | 1499 | |
| 2. | Mrs. Farina Wong Kingsley<br>(Nominee Shareholder)<br>#3435, Regetta Blvd, Richmond, California 94804, U.S.A | Amercian<br>PPNo.214928971 | 1 | |

ရန်ကုန်။ နေ့စွဲ၊ ၂၀ ခုနှစ်၊ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဘန့်(ရှ်)မိတ်အေးရှား(မြန်မာ) ~~ကုမ္ပဏီ~~ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမ ဇယားပုံစံ 'က' ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့်အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ်အထိသာကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက်ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် အမေရိကန်ဒေါ်လာ ၁၀,၀၀၀,၀၀၀ /-( ကျပ်
ဒေါ်လာ တစ်ဆယ်သန်း တိတိ )ဖြစ်၍ ငွေကျပ် ဒေါ်လာ ၁၀၀ /-( ကျပ်
ဒေါ်လာ တစ်ရာ တိတိ )တန် အစုရှယ်ယာပေါင်း ( ၁၀၀,၀၀၀ ) ခွဲထားပါသည်၊
ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိဟရားဝင်တည်ဆဲဖြစ်နေသောတရားဥပဒေပြဌာန်းချက်များနှင့် အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကိုဆောင်ရွက်နိုင်သည်။

[illegible] တာများကို မယေ့ထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်း ဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံ အထောက်အထားတစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ အမွေစားအမွေခံကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများကသတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန်တာဝန်ရှိစေရမည်။ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊သို့မဟုတ်ပယ်ဖျက်ခြင်းသို့မဟုတ်ရွှေ့ဆိုင်းခြင်းတို့ကိုဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦး ထက်မနည်း၊ ( ၇ )ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် -

( ၁ ) Mr. Christopher Wright Kingsley

( ၂ ) Mrs. Farina Wong Kingsley

( ၃ )

( ၄ )

( ၅ ) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သောသတ်မှတ်ချက်များ၊ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီးအခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများအားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာအနည်းဆုံး ( - )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံးဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါကဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆိုပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်ပူးနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည်နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေအာဏာများကိုမထိခိုက်စေဘဲဒါရိုက်တာများသည်အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့်မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ်အဆိုပါ ချေးငှားသောငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒိဘင်ချာများ၊ ဒိဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါ အဝင်ယခုလက်ရှိနှင့် နောင်ရှိမည့်ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ်တစ်စိတ်တဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒိဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံ စာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများအနေဖြင့် သော်လည်းကောင်း၊ သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒိဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံးသို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ၊ ထိုကဲ့သို့ မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီ နှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ် ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စများအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ် အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသ ကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စားဆောင်ရွက် နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာအဖြစ်ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကိုဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေစွန့်လွှတ်ခြင်း အား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့် ပိုင်ဆိုင်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စားလက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆိုခန့်ထားရန်နှင့် အဆိုပါယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍လိုအပ်သော အခြား စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီ အပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက်အပ်နှံရန်အပြင်ဖြန်ဖြေရေး ခုံသမာဓိ၏ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေး များအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီမဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့်လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံ ပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့်အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပါပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ် များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ် သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါကကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

### အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှတစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး ကြီးကို ကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့်နေရာ များတွင်ပြက္ခဒိန်နှစ်တစ်နှစ်လျှင်အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့် အထွေထွေအစည်း အဝေးကြီး နှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်းသတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်း ထက်မနည်းပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန်အတွက် အစည်းအဝေး အထမြောက် သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာ ရှိသည့်ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

### အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအားခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

### ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မီသူများ အား ရုံးဝန်ထမ်းများအဖြစ်ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များ ကဲ့သို့သော ဥဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

### ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့်အညီ ထားသိုထိန်းသိမ်းဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ရငွေ၊သုံးငွေများ၏ပမာဏနှင့်၎င်းရငွေ၊သုံးငွေများဖြစ်ပေါ်ခြင်းနှင့်စပ်လျဉ်းသည့်အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉ ။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများသို့မဟုတ် ဒါရိုက်တာ များက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

### စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများ နှင့် လိုက်လျောညီထွေဖြစ်ရမည်။

